# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ-၁၂၆၇/၂၀၁၇ ။ ၂၀၁၇ ခုနှစ်၊ ဩဂုတ်လ ၂၅ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ ပုဒ်မခွဲ(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးအောင်စိန်

(ခ) **အဘ အမည်** ဦးရောင်ဝမ်ချင်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၉/မရမ(နိုင်)၀၇၈၃၂၄

(ဃ) **နေရပ်လိပ်စာ** အမှတ်-၄၀(အေ)၊ ဖိုးစိန်လမ်း၊ နတ်မောက်ရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့်သို့မဟုတ်ဖွဲ့စည်းမည့်အဖွဲ့အစည်း** အောင်ကမ္ဘာမော်တာဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ် ရောင်းချခြင်းနှင့်ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ဦးပိုင်အမှတ်(၅၆/၂/က+၅၆/၂/ခ+ ၅၆/၂/ဃ+ ၅၇/၂)၊ ကွင်းအမှတ်-( ၁၀၈၂^က)၊ ဆားတလင်းကွင်း၊ ဆားတလင်းကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၂၈၆၃.၆၂ သန်း (အမေရိကန်ဒေါ်လာ ၁.၆၂ သန်း အပါအဝင် ကျပ်နှစ်ထောင့်ရှစ်ရာ ခြောက်ဆယ့်သုံးသန်းနှင့်ခြောက်သိန်းနှစ်သောင်းခန့်)

(ဈ) **တည်ဆောက်မှုကာလ** ၃ နှစ်

20.8.17

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၈၀ / ၂၀၁၇(မနသ)

၂၀၁၇ ခုနှစ် ဩဂုတ်လ ၂၀ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited)သည် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ဆားတလင်းကျေးရွာအုပ်စု၊ ဆားတလင်းကွင်း၊ ကွင်းအမှတ်-(၁၀၈၂)၊ ဦးပိုင်အမှတ် (၅၆/၂/က+ ၅၆/၂/ခ+ ၅၆/၂/ဃ+ ၅၇/၂)ရှိ မြေဧရိယာ ၁၈.၆၄ဧက (၇၅၄၃၃.၄၇ စတုရန်းမီတာ) တွင် မော်တော်ယာဉ် တပ်ဆင် ထုတ်လုပ် ရောင်းချခြင်းနှင့် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား ၂၀၁၇ ခုနှစ် ဩဂုတ်လ ၇ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၁/၂၀၁၇)အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် အောင်ကမ္ဘာမော်တာဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited) အား မော်တော်ယာဉ် တပ်ဆင် ထုတ်လုပ် ရောင်းချခြင်းနှင့် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၁၂၆၇/၂၀၁၇ ကို ထုတ်ပေးလိုက်သည်။

၂။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ်၁၂၃/၂၀၁၆ (၁၆-၁၁-၂၀၁၆)အရ သတ်မှတ်ထားသော ကာလအတွင်း တင်ပြခဲ့သဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်-

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်း အထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅)နှစ်

ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍

နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ်ထားရှိ ဆောင်ရွက်အကောင်အထည်ဖော်ရမည်။

၅။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited) သည် မော်တော်ယာဉ် တပ်ဆင် ထုတ်လုပ် ရောင်းချခြင်းနှင့် ပြုပြင် ထိန်းသိမ်းခြင်းလုပ်ငန်းအား စီးပွားဖြစ်စတင်သောနှစ်မှ စတင်၍ ပထမနှစ်နှင့် ဒုတိယနှစ်အထိ (၂)နှစ်အတွက် SKD-1စနစ်ဖြင့် ဆောင်ရွက်ရန်နှင့် တတိယနှစ်မှ စတင်၍ SKD-2 စနစ်ဖြင့်သာ ဆောင်ရွက်ရမည်။

၆။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။

၈။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေး တို့အတွက် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan- EMP)၊ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)ကို ပြုလုပ် ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင် ခံရမည်။

၉။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့ အင်အားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်း ဇယားများစနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက် ရမည်။

၁၀။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေး အန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး

အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၁။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၂။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited) သည် ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၃။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited) သည် ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထား သော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသ လိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၅။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၆။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ်

တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်းမပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

20.8.17

(ကျော်ဝင်း)
ဥက္ကဋ္ဌ

စာအမှတ် ၊ မရက-၃/မ-၁၄၅၆/၂၀၁၇( ၇၀၆-က )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဩဂုတ်လ ၂၀ ရက်

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

တိုင်းဦးစီးမှူးရုံး၊ရန်ကုန်တိုင်းဒေသကြီး၊ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
အုပ်ချုပ်မှုဒါရိုက်တာ၊ အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**

စာအမှတ်၊ မရက-၃/မ- ၁၄၅၆/၂၀၁၇( ၁၇ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၅ ရက်

**အဆိုပြုချက်စိစစ်ရေးအဖွဲ့သို့**
**တင်ပြမည့်အမှာစာ**

အကြောင်းအရာ။ **အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီ လီမိတက် (Aung Gabar Motor Services Company Limited)မှ မော်တော်ကား တပ်ဆင်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအားမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited)သည် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ဆားတလင်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-(၁၀၈၂-က)၊ ဦးပိုင်အမှတ်(၅၆/၂+၅၇/၂)ရှိ မြေဧရိယာ ၁၈.၆၄ ဧက (၇၅၄၃၃.၄၇ စတုရန်းမီတာ)တွင် မော်တော်ကား တပ်ဆင် ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအောင်စိန်(အဘ-ဦးရောင်ဝမ်ချင်)မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ အဖွဲ့ဝင်များနှင့် ဌာနများမှ လိုအပ်ချက်များ၊ ပြင်ဆင်ဖြည့်စွက်ရန်ကိစ္စများ၊ လုပ်ထုံးလုပ်နည်းများနှင့် မညီညွတ်သည့်ကိစ္စများကို ဆွေးနွေးနိုင်ပါရန် တင်ပြအပ်ပါသည်။

၅-၁-၂၀၁၇

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(စိုးမြင့်အောင်၊ညွှန်ကြားရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

D:\1 Existing Proposals\1. Aung Gabar Motor\Aung Gabar (PAT memo).doc

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အဆိုပြုချက်စိစစ်ရေးအဖွဲ့
အမှတ် (၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း-၀၁-၆၅၈၁၂၈ | စာအမှတ်၊မရက- ၃/မ- ၁၄၅၆/၂၀၁၇( ၁၅၈ )
ဖက်(စ်)- ၀၁- ၆၅၈၁၄၁ | ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၂၃ ရက်

အကြောင်းအရာ။ **အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited)မှ မော်တော်ကားတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီ လီမိတက် (Aung Gabar Motor Services Company Limited)၏ ၂၈-၁၂-၂၀၁၆ ရက်စွဲပါစာ

၁။ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၉ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၂/၂၀၁၇) ကြိမ်မြောက်အစည်းအဝေးဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဖြင့် အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited) တည်ထောင်ကာ မော်တော်ကားတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာပါသည်။

၂။ ၎င်းအဆိုပြုချက်အပေါ် ဖြည့်စွက်ပြင်ဆင်ရမည့်အချက်များကို ဆက်လက်အကြောင်းကြားမည်ဖြစ်ကြောင်းနှင့်အဆိုပြုချက်ကိုလက်ခံကြောင်းအကြောင်းပြန်ကြားပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(စိုးမြင့်အောင်၊ ညွှန်ကြားရေးမှူး)

**အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီ လီမိတက်**
**ဦးပိုင်အမှတ်(၅၆/၂+၅၇/၂)၊ ကွင်းအမှတ်-(၁၀၈၂-က)၊**
**ဆားတလင်းကျေးရွာအုပ်စု၊လှည်းကူးမြို့နယ်၊**
**ရန်ကုန်တိုင်းဒေသကြီး**

မိတ္တူကို
ကုမ္ပဏီရေးရာဌာနခွဲ
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**
အမှတ်(၁) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း-၀၁-၆၅၈၁၂၈ စာအမှတ်၊မရက- ၃/မ- ၁၄၅၆/၂၀၁၇( ၁၃၂ )
ဖက်(စ်) -၀၁-၆၅၈၁၄၁ ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၂၄ ရက်

အကြောင်းအရာ။ **အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီ လီမိတက် (Aung Gabar Motor Services Company Limited)မှ မော်တော်ကား တပ်ဆင်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအားမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

**ရည် ညွှန်း ချက် ။** အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီ လီမိတက် (Aung Gabar Motor Services Company Limited)၏ ၂၈-၁၂-၂၀၁၆ ရက်စွဲပါစာ

၁။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited)တည်ထောင်ကာ မော်တော်ကား တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စအား၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၉ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၂/၂၀၁၇) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြဆွေးနွေးခဲ့ရာ အစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်-

(က) လုပ်ငန်းအမျိုးအစားဖြည့်စွက်ပြင်ဆင်တင်ပြရန်။
(ခ) မြေငှားစာချုပ်(မူကြမ်း)တွင် မြေကွက်အမှတ်နှင့် မြေဧကမှားယွင်းမှုများအား ပြန်လည်ပြင်ဆင်တင်ပြရန်။
(ဂ) BAIC International Development Co., Ltd. နှင့် ချုပ်ဆိုထားသော Sales and After-sales Service Agreement အားအင်္ဂလိပ်ဘာသာဖြင့်သီးခြားဖော်ပြပေးရန်။
(ဃ) SKD, CKD နှင့် ပတ်သက်၍ မူအသစ်ထွက်လာပါက ၎င်းမူနှင့်အညီပြင်ဆင်တင်ပြရန်။

၂။ သို့ဖြစ်ပါ၍ အစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ ဆောင်ရွက်ပြီး ပြန်လည်တင်ပြရန် အကြောင်းကြားပါသည်။

(အောင်နိုင်ဦး)
အဖွဲ့ခေါင်းဆောင်

**အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီ လီမိတက်**
ဦးပိုင်အမှတ်(၅၆/၂+၅၇/၂)၊ ကွင်းအမှတ်-(၁၀၈၂-က)၊
ဆားတလင်းကျေးရွာအုပ်စု၊လှည်းကူးမြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး
မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

☎ -၀၁-၆၅၈၁၂၈ | စာအမှတ်၊မရက- ၃/မ- ၁၄၅၆/၂၀၁၇( ၂၆၂ )
🖷 -၀၁-၆၅၈၁၄၁ | ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၁၇ ရက်

သို့

**ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited)၏ ၂၈-၁၂-၂၀၁၆ နှင့် ၁၄-၂-၂၀၁၇ရက်စွဲပါစာ

၁။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited)သည် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ဆားတလင်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-(၁၀၈၂-က)၊ဦးပိုင်အမှတ်(၅၆/၂+၅၇/၂)ရှိ မြေဧရိယာ ၁၈.၆၄ဧက (၇၅၄၃၃.၄၇ စတုရန်းမီတာ)တွင် မော်တော်ကား တပ်ဆင် ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်ရင်းနှီးမြှုပ်နှံသူဦးအောင်စိန်(အဘ- ဦးရောင်ဝမ်ချင်)မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့အဆိုပြုတင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ အပိုဒ်(၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့၏ သဘောထားများကိုတောင်းခံရယူရန်လိုအပ်ပါသည်။

၃။ ကော်မရှင်အနေဖြင့် လုပ်ငန်းအဆိုပြုလွှာများကို ဆောလျင်စွာ စိစစ်ပေးရမည် ဖြစ်ပါသဖြင့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ အောက်ပါသဘောထားမှတ်ချက်အား ဤစာလက်ခံရရှိသည့်နေ့မှ **ခုနှစ်ရက်အတွင်း** ဝန်ကြီးချုပ်(သို့မဟုတ်)ဝန်ကြီးချုပ်က တာဝန်ပေးအပ်သူ တစ်ဦးဦးက လက်မှတ်ရေးထိုး ပြန်ကြားပေးပါရန် အဆိုပြုချက်(တစ်)စောင်အား ပူးတွဲပေးပို့လျက် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်ခြင်း ရှိ/ မရှိ။

(ခ) မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်/ မဖြစ်။

(ဂ) ဖော်ပြပါမြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/ မရှိ။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့်မြေနေရာ ဟုတ်-မဟုတ်။

(င) တိုင်းဒေသကြီးအစိုးရအဖွဲ့၏ အကြံပြုချက်။

၄။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited)နှင့် ပတ်သက်၍ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်မှာ ဦးအောင်စိန် တယ်လီဖုန်း ၀၉-၅၁၅၈၈၈၈ ဖြစ်ကြောင်းအသိပေးအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရန်ကုန်တိုင်းဦးစီးမှူး၊ စီမံကိန်းရေးဆွဲရေးဦးစီးဌာန
အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက်
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

☎ - ၀၁-၆၅၈၁၂၈
🖷 - ၀၁-၆၅၈၁၄၁

စာအမှတ်၊မရက- ၃/မ- ၁၄၅၆/၂၀၁၇( ၂၆၃ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၁၆ ရက်

သို့

**အဖွဲ့ခေါင်းဆောင်**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန**
**One Stop Service အဖွဲ့**

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီ လီမိတက် (Aung Gabar Motor Services Company Limited)၏၂၈-၁၂-၂၀၁၆ နှင့်၁၄-၂-၂၀၁၇ရက်စွဲပါစာ

၁။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited)သည် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ဆားတလင်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-(၁၀၈၂-က)၊ ဦးပိုင်အမှတ် (၅၆/၂+၅၇/၂)ရှိ မြေဧရိယာ ၁၈.၆၄ဧက (၇၅၄၃၃.၄၇စတုရန်းမီတာ)တွင် မော်တော်ကား တပ်ဆင် ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအောင်စိန်(အဘ-ဦးရောင်ဝမ်ချင်)မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၃)၊ အပိုဒ်(၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်အား စာလက်ခံရရှိ**သည့်** နေ့မှစ၍ **ခုနစ်ရက်အတွင်း** ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းစာပါ အဆိုပြုလွှာတစ်စုံအားပူးတွဲပေးပို့ မေတ္တာရပ်ခံအပ်ပါသည်။

၄။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited)နှင့် ပတ်သက်၍ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်မှာ ဦးအောင်စိန် တယ်လီဖုန်း ၀၉-၅၁၅၈၈၈၈ ဖြစ်ကြောင်းအသိပေးအပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(ဆန်းမြင့်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်
ရုံးလက်ခံ/မျှောစာတွဲ

Inv-2

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ - ၀၁-၆၅၈၁၂၈

🖷 - ၀၁-၆၅၈၁၄၁

စာအမှတ်၊မရက- ၃/ မ- ၁၄၅၆/၂၀၁၇( ၂၆၆ )

ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၁၅ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**
**စက်မှုဝန်ကြီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

**ရည် ညွှန်း ချက်** ။ အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited)၏၂၈-၁၂-၂၀၁၆ နှင့် ၁၄-၂-၂၀၁၇ ရက်စွဲပါစာ

၁။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited)သည် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ဆားတလင်းကျေးရွာ အုပ်စု၊ကွင်းအမှတ်-(၁၀၈၂-က)၊ဦးပိုင်အမှတ်(၅၆/၂+၅၇/၂)ရှိမြေဧရိယာ၁၈.၆၄ဧက (၇၅၄၃၃.၄၇ စတုရန်းမီတာ)တွင်မော်တော်ကားတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအောင်စိန်(အဘ-ဦးရောင်ဝမ်ချင်)မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၃)၊ အပိုဒ် (၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန်လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်အား စာလက်ခံ ရရှိသည့်နေ့မှစ၍ **ခုနှစ်ရက်အတွင်း** ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းစာပါ အဆိုပြုလွှာ တစ်စုံအား ပူးတွဲ ပေးပို့ မေတ္တာရပ်ခံအပ်ပါသည်။

၄။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited)နှင့် ပတ်သက်၍ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်မှာ ဦးအောင်စိန် တယ်လီဖုန်း ၀၉-၅၁၅၈၈၈၈ ဖြစ်ကြောင်းအသိပေးအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)

(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက်

ရုံးလက်ခံ/မျှောစာတွဲ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
Myanmar Investment Commission


ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☏ - ၀၁-၆၅၈၁၂၈
🖷 - ၀၁-၆၅၈၁၄၁


စာအမှတ်၊မရက- ၃/ မ- ၁၄၅၆/၂၀၁၇( ၂၆၄ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၁၇ ရက်

သို့
**ပြည်ထောင်စုဝန်ကြီးရုံး**
**စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited)၏ ၂၈-၁၂-၂၀၁၆ နှင့် ၁၄-၂-၂၀၁၇ ရက်စွဲပါစာ

၁။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited)သည် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ဆားတလင်းကျေးရွာ အုပ်စု၊ကွင်းအမှတ်-(၁၀၈၂-က)၊ဦးပိုင်အမှတ်(၅၆/၂+၅၇/၂)ရှိမြေဧရိယာ၁၈.၆၄ဧက (၇၅၄၃၃.၄၇ စတုရန်းမီတာ)တွင်မော်တော်ကားတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအောင်စိန်(အဘ-ဦးရောင်ဝမ်ချင်)မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၃)၊ အပိုဒ် (၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန်လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်အား စာလက်ခံ ရရှိသည့်နေ့မှစ၍ **ခုနှစ်ရက်အတွင်း** ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းစာပါ အဆိုပြုလွှာ တစ်စုံအား ပူးတွဲ ပေးပို့ မေတ္တာရပ်ခံအပ်ပါသည်။

၄။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited)နှင့် ပတ်သက်၍ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်မှာ ဦးအောင်စိန် တယ်လီဖုန်း ၀၉-၅၁၅၈၈၈၈ ဖြစ်ကြောင်းအသိပေးအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ကုန်သွယ်ရေးဦးစီးဌာန
အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ - ၀၁-၆၅၈၁၂၈

🖷 - ၀၁-၆၅၈၁၄၀

စာအမှတ်၊မရက- ၃/ မ- ၁၄၅၆/၂၀၁၇( ၂၆၅ )

ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၁၆ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**
**ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited)၏ ၂၈-၁၂-၂၀၁၆ နှင့် ၁၄-၂-၂၀၁၇ ရက်စွဲပါစာ

၁။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited)သည် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ဆားတလင်းကျေးရွာ အုပ်စု၊ကွင်းအမှတ်-(၁၀၈၂-က)၊ဦးပိုင်အမှတ်(၅၆/၂+၅၇/၂)ရှိမြေဧရိယာ၁၈.၆၄ဧက (၇၅၄၃၃.၄၇ စတုရန်းမီတာ)တွင်မော်တော်ကားတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအောင်စိန်(အဘ-ဦးရောင်ဝမ်ချင်)မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၃)၊ အပိုဒ် (၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန်လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်အား စာလက်ခံ ရရှိသည့်နေ့မှစ၍ **ခုနစ်ရက်အတွင်း** ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းစာပါ အဆိုပြုလွှာ တစ်စုံအား ပူးတွဲ ပေးပို့ မေတ္တာရပ်ခံအပ်ပါသည်။

၄။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited)နှင့် ပတ်သက်၍ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်မှာ ဦးအောင်စိန် တယ်လီဖုန်း ၀၉-၅၁၅၈၈၈၈ ဖြစ်ကြောင်းအသိပေးအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန
အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ် ၁၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ -၀၁-၆၅၈၁၂၈

🖷 -၀၁-၆၅၈၁၄၁

စာအမှတ်၊မရက- ၃/ မ- ၁၄၅၆ /၂၀၁၇( ၅၆၅ )

ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇွန်လ ၈ ရက်

အကြောင်းအရာ။ **အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီ လီမိတက် (Aung Gabar Motor Services Company Limited)၏ အဆိုပြုချက်အား ပြန်လည် ပေးပို့ခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီ လီမိတက် (Aung Gabar Motor Services Company Limited)၏ ၂၈-၁၂-၂၀၁၆ ရက်စွဲပါစာ

၁။ အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီ လီမိတက် (Aung Gabar Motor Services Company Limited)မှ မော်တော်ကားတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၉ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၂/၂၀၁၇) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း ၉ ပုဒ်မ ၁၈(ခ)အရ အဆိုပြုချက်အား လက်ခံပါက ခွင့်ပြုမိန့်ကို ရက်ပေါင်း ၉၀ အတွင်းထုတ်ပေးရမည် ဖြစ်ပါသည်။

၃။ ကုမ္ပဏီမှ အဆိုပြုချက်တင်ပြလာမှုအား လက်ခံရရှိသည်မှာ ရက်ပေါင်း ၈၀ ကျော်လွန်နေသော်လည်း စက်မှုဝန်ကြီးဌာနနှင့် ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနတို့၏ သဘောထားမှတ်ချက်နှင့်အညီ ပြန်လည်ပြင်ဆင်တင်ပြလာခြင်း မရှိသေးပါသဖြင့် သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ပြီးမှသာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်အား ပြန်လည်တင်ပြရန်အကြောင်းကြားပါသည်။

အတွင်းရေးမှူး(ကိုယ်စား)

(စိုးမြင့်အောင်၊ ညွှန်ကြားရေးမှူး)

**အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီ လီမိတက်**

**ဦးပိုင်အမှတ်(၅၆/၂+၅၇/၂)၊ ကွင်းအမှတ်-(၁၀၈၂-က)၊**

**ဆားကလင်းကျေးရွာအုပ်စု၊လှည်းကူးမြို့နယ်၊**

ရန်ကုန်တိုင်းဒေသကြီး

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

ကုမ္ပဏီ၏ အထွေထွေမန်နေဂျာဦးသန့်ဇော်ဝင်းက အခြားသားကိုအသုံးပြုမည်ဖြစ်ကြောင်း၊ စိုက်ခင်းမှာ ရွှေပြည်အေးတွင်ရှိပြီး ထွက်ရှိသည့်သစ်လုံးများကိုအသုံးပြုမည်ဖြစ်ကြောင်း၊ တရုတ်ပြည်မှ တင်သွင်းမည့် ယူကလစ်ကိုလည်းအသုံးပြုမည်ဖြစ်ကြောင်း၊ အလယ်ခံကို စိုက်ခင်းမှထွက်သည့် သစ်နှင့် အသုံးပြုမည်ဖြစ်ကြောင်း၊ မြန်မာ့သစ်လုပ်ငန်းမှ လေလံများကိုလည်းဝင်ပြိုင်၍ ကုန်ကြမ်းရရှိအောင် ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ၂၀၁၄-၂၀၁၅ ခုနှစ်တွင် ဧက ၁၅၀၀ စစ်ကိုင်းတိုင်းဒေသကြီးတွင် စိုက်ပျိုးပြီးကြောင်း၊ ၂၀၁၆-၂၀၁၇ ခုနှစ် စိုက်ပျိုးမည်ကို ၂၀၁၇-၂၀၁၈ ခုနှစ်သို့ တိုးချဲ့စိုက်ပျိုးခွင့် တင်ပြထားပြီးဖြစ်ကြောင်း၊ဧက ၂၀၀၀ တွင် ဧက ၁၅၀၀ စိုက်ပျိုးပြီးဖြစ်ကြောင်း၊ မဂျန်ရှားကို အလယ်ခံအနေဖြင့် အသုံးပြုမည်ဖြစ်ကြောင်း၊ သစ်အချောထည်စက်ရုံ ဆောက်လုပ်ရန်အတွက် လျှောက်ထားမည် ဖြစ်ကြောင်း၊ Peeling လုပ်ပြီးသားသစ်များကို ရွှေပြည်အေးစက်ရုံမှ တင်သွင်းမည်ဖြစ်ကြောင်း၊ သစ်ပါးလွှာများကို တရုတ်နယ်စပ်မှတင်သွင်းမည်ဖြစ်ကြောင်း၊ FE Account ရှိ၍ ဖော်ပြပေးမည် ဖြစ်ကြောင်း၊ မြေနေရာကို ခြံစည်းရိုးခတ်ထားပြီးဖြစ်ကြောင်း၊ သစ်ပါးလွှာများကို ရိုးရိုးအခွန်ဆောင်၍ သွင်းခြင်းဖြစ်ကြောင်း၊ Nature Timber Trading Co., Ltd. အမည်ဖြင့် တင်သွင်းမည်ဖြစ်ကြောင်း၊ ၂၀၁၆-၂၀၁၇ အထိ အခွန်စည်းကြပ်မှုခံယူပြီးကြောင်း၊ အထောက်အထား ဖော်ပြပေးမည်ဖြစ်ကြောင်း၊ မြေတူး စက်တင်သွင်းရခြင်းမှာ စက်ရုံဆောက်လုပ်မည့်နေရာများအတွင်း တောင်ကုန်းများရှိ၍ မြေညှိခြင်း ဆောင်ရွက်ရန်အတွက် အသုံးပြုမည်ဖြစ်ကြောင်း၊Caustic Soda၊ Uera များမှာ ကော်ချက်ရာအတွင် အသုံးပြုမည်ဖြစ်၍ တင်သွင်းခြင်းဖြစ်ကြောင်း၊အဆိုပြုချက်တွင် စာလုံးပေါင်းမှားနေခြင်းများ အပါအဝင် လိုအပ်ချက်များနှင့် ပြင်ဆင်တင်ပြပေးရန်ရှိသည်များကို ပြန်လည်ပြင်ဆင်တင်ပြပေးမည် ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Nature Timber Trading Co., Ltd. မှ သစ်အထပ်သား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်း ကိစ္စအား အောက်ပါအတိုင်း ဆုံးဖြတ်ပါသည်-

(က) နိုင်ငံခြားငွေအထောက်အထားတင်ပြပေးရန်။
(ခ) စက်မှုမြေငှားဂရန် လျှောက်ထားဆောင်ရွက်ရန်။
(ဃ) စက်ပစ္စည်းစာရင်းပြင်ဆင်တင်ပြရန်။
(င) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံစွာပြင်ဆင်တင်ပြလာပါက ကော်မရှင်အစည်းအဝေးသို့တင်ပြရန်။

**၁၄။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် အောင်ကမ္ဘာမော်တာဝန်ဆောင်မှု ကုမ္ပဏီ လီမိတက် (Aung Gabar Motor Services Co., Ltd.)မှ မော်တော်ကား တပ်ဆင်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးမင်းဇော်ဦး ကအမှာစာကို ဖတ်ကြားပြီး ကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ဥက္ကဋ္ဌ ဦးအောင်စိန်က အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Aung Gabar Motor Services Co., Ltd.)သည်မော်တော်ကား ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ဆားတလင်းကျေးရွာအုပ်စု၊ ကွင်း

အမှတ် ၁၀၈၂-က၊ ဦးပိုင်အမှတ် ၅၆/၂+ ၅၇/၂ ရှိ မြေဧရိယာ (၁၈.၆၄)ဧကတွင် မော်တော်ကားတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်မည်ဖြစ်ကြောင်းနှင့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအခြေအနေများနှင့် ဆောင်ရွက်မည့်လုပ်ငန်းစဉ်များကို ရှင်းလင်းတင်ပြပါ သည်။

အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်းမှ လက်ထောက်အထွေထွေမန်နေဂျာ ဒေါ်မြတ်မွန်သိန်းက အဆိုပြုချက်တွင် တင်ပြထားသည်မှာ ပြည့်စုံပါကြောင်း၊ SKD နှင့်ပတ်သက်သော မူဝါဒ-၉ခုအရ ထုတ်လုပ်မှု အစိတ်အပိုင်း 9 Items Assembly များအား နှစ်အလိုက်ထုတ်လုပ်မည့် ဖော်ပြချက်ကို ရှင်းလင်းတင်ပြထားသည်မှာ လက်ခံနိုင်သည့် သဘောရှိပါကြောင်း၊ နိုင်ငံ၏(Auto Industry Development) မော်တော်ယာဉ်ထုတ်လုပ်မှုလုပ်ငန်းများ တိုးတက် လာရန်အတွက် SKD စနစ်ကို ကာလတစ်ခု၊ ထုတ်လုပ်မှုအရေအတွက်တစ်ခုသတ်မှတ်၍ ယာယီသာ ခွင့်ပြုပေးထားခြင်းဖြစ်ကြောင်း၊ နောင်တွင် CKDစနစ်ကို ကူးပြောင်းဆောင်ရွက်စေလိုကြောင်း၊ စတင် ထုတ်လုပ်ပါက မည်သည့်စက်များကိုအသုံးပြု၍ မည်သည့်အစိတ်အပိုင်းကိုထုတ်လုပ်သည်ဆိုသည်ကို မိမိတို့ဝန်ကြီး ဌာနသို့ တင်ပြပေးပါရန်၊ မော်တော်ယာဉ်အစိတ်အပိုင်းများကို ပြည်ပမှ တင်သွင်းတပ်ဆင်မည်ဟု သိရှိရ၍ Parts များကို စာချုပ်ဖြင့် ဝယ်ယူပြီး အမှန်တကယ်တပ်ဆင်ထုတ်လုပ်ရန် ပြောကြားလိုကြောင်း၊ အထူးသဖြင့် testing equipmentတပ်ဆင်မည့်အစီအစဉ်၊ Safety ဆောင်ရွက်မည့် အစီအစဉ်၊ ပတ်ဝန်းကျင် ကာကွယ်ရေးအစီအစဉ်၊ အရည်အသွေးပြည့်မီအောင် ဆောင်ရွက်မည့် အစီအစဉ် စသည်တို့ကို ပြည့်ပြည့်စုံစုံတင်ပြပေးရန် ဆွေးနွေးပြောကြားပါသည်။

မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဦးမြင့်ခိုင်က အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် မြေနေရာသည် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ဆားတလင်းကျေးရွာအုပ်စု ကွင်းအမှတ် ၁၀၈၂-က၊ ဦးပိုင်အမှတ် ၅၆/၂+ ၅၇/၂ ရှိ မြေဧရိယာ (၁၈.၆၄)ဧကတွင် ဆောင်ရွက်မည်ဖြစ်ပြီး ၂၀၁၁ခုနှစ်မေလတွင် ဒေါ်တင်ကြည် အမည်နှင့် ခေါက်ဆွဲစက်ရုံအဖြစ်လန-၃၉ ခွင့်ပြုမိန့်ပေးထားခဲ့ကြောင်း၊ ၂၀၁၂ ခုနှစ်တွင် အရောင်းအဝယ်စာချုပ်ချုပ်ဆို၍ ဦးအောင်စိန်၊ ဦးမြင့်သိန်း၊ ဒေါ်သန္တာစိုးနှင့် ဒေါ်အိမျိုးမျိုးခိုင် လေးဦး အမည်ပေါက် မြေဂရန်ရရှိထား၍ ၂၀၁၆ နိုဝင်ဘာလတွင် မော်တော်ယာဉ်တပ်ဆင်ပြုပြင်ခြင်းနှင့် အရောင်းပြခန်းအတွက် ပြောင်းလဲသုံးစွဲ ခွင့်ပြုရန်လျှောက်ထားခဲ့ကြောင်း၊ စက်မှုလုပ်ငန်းရေရှည်လုပ်ကိုင်နိုင်ရန်အတွက် စက်မှုမြေငှားဂရန် လျှောက်ထားခြင်း အခြေအနေကိုသိလိုကြောင်း၊ ၂၀၁၆ ခုနှစ်တွင်ပေးထားသော မြေစာရင်းမြေပုံ- ၁၀၅၊ ၁၀၆ တွင် ဝယ်ယူသူများအမည်နှင့် ရရှိပြီး ဖြစ်ကြောင်း၊ လုပ်ငန်းခွင့်ပြုချက်မှာ ဒေါ်တင်ကြည် အမည်ဖြင့် ရှိနေသော ခေါက်ဆွဲစက်ရုံလုပ်ကိုင်ခွင့်သာရရှိသေးသောကြောင့် မော်တော်ယာဉ်တပ်ဆင် ပြုပြင်ခြင်းနှင့် အရောင်းပြခန်းအတွက် ပြောင်းလဲသုံးစွဲခွင့်ကို ဆောင်ရွက်စေလိုကြောင်း၊ မြေငှား သက်တမ်း ကနဦးနှစ်(၃၀) သတ်တမ်းတိုး ၅နှစ် ၂ကြိမ် ဖြစ်သောကြောင့် ဆက်လက်ငှားရမ်းရန် မြေပိုင်ရှင်အမည်ဖြင့် စက်မှုဂရန်ရရှိရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ရန်ကုန်လျှပ်စစ်ဓာတ်အားပေးရေးကော်ပိုရေးရှင်း ဒုတိယအထွေထွေမန်နေဂျာ (အင်ဂျင်နီယာ) ဦးခင်မောင်သွင်ကအဆိုပြုလုပ်ငန်းအနေဖြင့် နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက်ပမာဏ 1,500,000 KWH ဖော်ပြထား၍ SKD စနစ်ဖြင့် တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်းဖြစ်သောကြောင့် လျှပ်စစ်ဓါတ်အား

သုံးစွဲမှုနည်းသဖြင့် 500KVA Transformer ၂လုံးတပ်ဆင်ရန် လို-မလို သိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန ညွှန်ကြားရေးမှူး ဦးတင်ဦးက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်ရရှိပြီး စက်ရုံအတွင်းလျှပ်စစ်သွယ်တန်းခြင်းပြီးပါက Electrical Inspection ဌာန၏ စစ်ဆေးမှုခံယူပြီးမှ အသုံးပြုရမည်ဖြစ်ကြောင်း၊ စက်ရုံစတင်လည်ပတ်ပါက ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်လျှောက်ထားရမည်ဖြစ်ကြောင်း၊ Brand အသုံးပြုခွင့်စာချုပ်ချုပ်ဆိုပြီးခြင်းရှိ-မရှိ သိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပြည်တွင်းအခွန်များဦးစီးဌာန ညွှန်ကြားရေးမှူး ဦးတက်ထွန်းအောင်က မြေငှားစာချုပ် တွင် တစ်နှစ်ငှားရမ်းခရငွေ၏ ပျမ်းမျှ ၂% ကို ကုမ္ပဏီမှ တံဆိပ်ခေါင်းကပ်ရမည်ဖြစ်ကြောင်း၊ မြေပိုင်ရှင်အနေဖြင့် ရငွေပေါ်တွင် ဝင်ငွေခွန်နှင့် ကုန်သွယ်လုပ်ငန်းခွန် စည်းကြပ်ခံရမည်ဖြစ်ကြောင်း၊ Vehicle Assembly Co-operation Agreement တွင် Law of the PRCဟု ဖော်ပြထားသော်လည်း စာချုပ်မှာ မြန်မာနိုင်ငံတွင်ချုပ်ဆိုထားသော စာချုပ်ဖြစ်၍ တံဆိပ်ခေါင်းအခွန်ကပ်ရမည်ဖြစ်ကြောင်း၊ မည်သည့်အခွန်ထမ်းရုံးတွင် အခွန်စည်းကြပ်မှု ခံယူသည်ကို သိလိုကြောင်း၊ ၂၀၁၆-၂၀၁၇ ခုနှစ် စည်းကြပ်နှစ်တွင် အခွန်စည်းကြပ်ခံပြီးဖြစ်ကြောင်း အထောက်အထား(မိတ္တူ) တင်ပြပေးရမည်ဖြစ်ကြောင်း၊ ကုမ္ပဏီအနေဖြင့် လုပ်ငန်းမစတင်မီ သက်ဆိုင်ရာအလယ်အလတ် အခွန်ထမ်းများဆိုင်ရာအခွန်ရုံး နှင့် ဆက်သွယ်ဆောင်ရွက်ရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဦးမြင့်ကြည်က လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်းခန့်ထားခြင်းအား ဥပဒေအရ သက်ဆိုင်ရာမြို့နယ် အလုပ်အကိုင်နှင့် အလုပ်သမားရှာဖွေရေးရုံးမှ ခေါ်ယူခန့်ထားခွင့်ရှိ၍ ကုမ္ပဏီမှ ဆက်သွယ်ဆောင်ရွက်ရန်လိုကြောင်း၊ ပြည်ပဝန်ထမ်းခန့်ထားခြင်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုသက်တမ်းကာလ နှင့်အညီ ခွင့်ပြုပေးနေပြီး One Stop Service (OSS) မှ နိုင်ငံခြားသား အလုပ်သမားမှတ်ပုံတင်ကတ်ထုတ်ပေးနေပါကြောင်း၊ ဝန်ထမ်းခန့်ထားပြီးပါက သတ်မှတ်ကာလအတွင်း အလုပ်ရှင်နှင့်အလုပ်သမားသဘောတူစာချုပ်ချုပ်ဆိုရန်နှင့် လူမှုဖူလုံရေးမှတ်ပုံတင်ကြေးပေးဆောင်ရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ကုန်သွယ်ရေးဦးစီးဌာန ညွှန်ကြားရေးမှူး ဦးတင်လတ်က အဆိုပြုချက်ပါ Exhibit III , Sr.No 29ပါ Vehicle Transportမှာ မည်သည့်စက်ပစ္စည်းကို ဆိုလိုသည်ကို သိလိုကြောင်း၊ ပြည်ပမှ စက်ပစ္စည်း များ တင်သွင်းခွင့်လျှောက်သည့်အခါ တင်သွင်းမည့် Spare Partတစ်ခုချင်းအလိုက် Unit Code ဖော်ပြပေးရမည်ဖြစ်ပြီး Invoice တွင် အချက်အလက် ပြည့်စုံစွာဖော်ပြပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန ညွှန်ကြားရေးမှူး ဒေါ်ခင်သီတာတင်က အဆိုပြုကုမ္ပဏီသည် မော်တော်ယာဉ်အမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဖြစ်၍ ပထမနှစ် တွင် မော်တော်ယာဉ်အစီးရေ ၁၅၀၀တပ်ဆင်ထုတ်လုပ်မည်ဖြစ်ပြီး ဒုတိယနှစ်မှ စတင်၍ အပိုပစ္စည်းများ ထုတ်လုပ်တပ်ဆင်သွားမည်ဖြစ်ကြောင်း၊ စတုတ္ထနှစ်မှ နှစ်၃၀အထိ မော်တော်ယာဉ် အစီးရေ ၅၀၀၀ တိုးမြှင့်

ထုတ်လုပ်ရန်ရည်ရွယ်ထားသည်ကိုတွေ့ရသဖြင့် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) အစီရင်ခံစာရေးဆွဲတင်ပြရမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန ညွှန်ကြားရေးမှူး ဒေါ်စန်းစန်းမြင့်က မော်တော်ယာဉ်လုပ်ငန်းနှင့်ပတ်သက်၍ လက်ရှိမည်သည့်လုပ်ငန်းများ လုပ်ကိုင်နေသည်ကို သိလိုကြောင်း၊ မြေငှားရမ်းခ တစ်နှစ်လျှင် မြေတကွက် ၁၂သန်း၊ ၄ကွက် ၄၈သန်းဖြစ်ပြီး မြေငှားစာချုပ်တွင် ဖော်ပြထားသော မြေကွက်အမှတ်နှင့် မြေဧကမှာ မြေစာရင်းပုံစံ ၁၀၅ဧကနှင့် မြေပုံစံ-၁၀၅ နှင့် ကွဲလွဲနေကြောင်း၊ အရောင်းပြခန်းမှာသက်တမ်းကုန်ပြီဖြစ်၍ သက်တမ်းတိုးထားခြင်း ရှိ-မရှိ နှင့် သက်တမ်းတိုးပြီးပါက အထောက်အထားတင်ပြရန်လိုကြောင်း၊ BAIC International Development Co.,Ltd နှင့် ချုပ်ဆိုထားသော သဘောတူစာချုပ်များ အား အင်္ဂလိပ်ဘာသာဖြင့် သီးခြားဖော်ပြပေးရန်၊ အဆိုပြုချက် လုပ်ငန်းအမျိုးအစားတွင် SKD စနစ်ဖြင့် ဆောင်ရွက် မည်ဖော်ပြထား၍ မော်တော်ယာဉ် ထုတ်လုပ်ခြင်းဟု ပြောင်းလဲပေးရန်၊ ပြည်ပတင်ပို့ရန်အစီအစဉ် ရှိ-မရှိသိလိုကြောင်း၊ အစီအစဉ်ရှိပါက ထည့်သွင်းဖော်ပြရန်လိုကြောင်း၊ ရောင်းချမည့်စနစ်အားဖော်ပြပေးရန်၊ Exhibit III , Sr.No 31တွင် Commercial Area ဟုဖော်ပြထား၍ ဆိုလိုချက်ကို သိလိုကြောင်းနှင့် အဆိုပြုချက်တွင် စာလုံးပေါင်း မှားနေခြင်းများ အပါအဝင် လိုအပ်ချက်များနှင့် ပြင်ဆင်တင်ပြပေးရန်ရှိသည်များကို ရင်းနှီးမြှုပ်နှံမှု ဌာနခွဲ-၂နှင့် ဆက်သွယ်ဆောင်ရွက်ပါရန် ဆွေးနွေးပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူးချုပ်(၃) ဦးသန့်စင်လွင်က ကော်မရှင်အနေဖြင့် CKD, SKD နှင့်ပတ်သက်၍ လုပ်ငန်းရှင်များ ရာနှုန်းပြည့်ကိုယ်တိုင်ထုတ်လုပ်နိုင်ရန် အားပေးမည့် မူချမှတ်ရန် အဖွဲ့ဖွဲ့၍ စဉ်းစားဆောင်ရွက်နေဆဲဖြစ်သောကြောင့်ရင်းနှီးမြှုပ်နှံမှုဌာနခွဲ-၂နှင့် ဆက်သွယ်၍ စောင့်စေလိုကြောင်းဆွေးနွေးပြောကြားပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာကမည်သည့်Brand အမည် သုံးစွဲမည်ကိုသိလိုကြောင်း၊ စာချုပ်မှာ မြန်မာနိုင်ငံတွင်ချုပ်ဆိုထားသော စာချုပ်ဖြစ်၍ တံဆိပ်ခေါင်းကပ်ရမည်ဖြစ်ပြီး BAIC International Development Co.,Ltd နှင့် ချုပ်ဆိုထားသော Sales and After-sales Service Agreement အရ Party A ၏ ကြိုတင်သဘောတူညီချက် ရယူရန်လိုကြောင်း နှင့် Party A ကို အကြောင်းကြားရန်လိုကြောင်း၊ အဆိုပြုလုပ်ငန်းတွင် ထုတ်လုပ်ပြီး သော မော်တော်ယာဉ်များအတွက် After sale servicesပါဝင်ခြင်းရှိ-မရှိသိလိုကြောင်း၊ ပါဝင်ပါက လုပ်ငန်းအမျိုးအစားတွင် ဖြည့်စွက်ရန်လိုကြောင်း၊ လုပ်ငန်းအမျိုးအစားတွင် ပြုပြင်ခြင်း၊ ထိန်းသိမ်းခြင်း ဖြည့်စွက်ရန်ဖြစ်၍ မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်း၊ BRIC အမှတ်တံဆိပ်ပါ ယာဉ်များ ပြုပြင်ခြင်း၊ ထိန်းသိမ်းခြင်းဟု ဖြည့်စွက်ရန် ဆွေးနွေးပြောကြားပါသည်။

ကုမ္ပဏီ၏ကမကထပြုသူ ဦးအောင်စိန်ကပထမနှစ်တွင် ကားအစီးရေ ၅၀၀ ထုတ်လုပ်မည်ဖြစ်ပြီး ၂၀၁၁ခုနှစ်မှ စတင်၍ ကားဟောင်းတင်သွင်းမှုများ ပြုလုပ်ခဲ့ပြီး ၂၀၁၃ခုနှစ်မှ စတင်၍ ကားသစ်များအား တင်သွင်းရောင်းချခဲ့ရာ အစီးရေ ၂၀၀၀ခန့်ရှိပြီဖြစ်ကြောင်း၊ တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ BAIC International Development Co.,Ltd ၏ BAIC ကုန်အမှတ်တံဆိပ်တံဆိပ်ဖြင့် ထုတ်လုပ်ထားသော မော်တော်ကား အစိတ်အပိုင်းများကို တင်သွင်း၍ ပြည်တွင်းတွင် SKD စနစ်ဖြင့် တပ်ဆင်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊ပြည်တွင်းကုမ္ပဏီများတွင်လည်း အစိတ်အပိုင်း အားလုံး

ထုတ်လုပ်ရန်မဖြစ်နိုင်သေးကြောင်း၊ ပြည်တွင်းတွင်မော်တော်ကား အစိတ်အပိုင်းထုတ်လုပ်မှု လုပ်ငန်းများတိုးတက်လာမှသာ မိမိတို့အနေဖြင့် ဝယ်ယူတပ်ဆင် ထုတ်လုပ်နိုင် မည်ဖြစ်ကြောင်း၊ စက်မှုဇုန်အားအဆောက်အဦ ဆောက်လုပ်ပြီးမှသာ ဆက်လက် လျှောက်ထားခွင့်ရမည်ဖြစ်ကြောင်း၊500KVA Transformer ၂လုံးတပ်ဆင်ရန်တင်ပြထားခြင်းမှာ လုပ်ငန်းချဲ့လျှင် လိုအပ်မည်ဖြစ်ပြီး လက်ရှိတွင် 350 KVA Transformer (၁)လုံးရှိပြီး နောက်ပိုင်းလိုအပ်မှသာ ထပ်တိုးမည်ဖြစ်ကြောင်း၊အရောင်းပြခန်းမှာသက်တမ်းတိုးထားပြီးဖြစ်ကြောင်း၊ မော်တော်ယာဥ်များရောင်းချပြီးပါက ၃နှစ်အတွင်း နှင့် ကီလိုမီတာ ၁သိန်းမောင်းပြီးသည့်ကာလအတွင်း Maintenance Services ကိုပေးသွားမည်ဖြစ်ကြောင်း၊ BAIC Brand အသုံးပြုခွင့်ရရှိထားပြီး ဖြစ်ကြောင်း၊ အထောက်အထားတင်ပြပေးမည်ဖြစ်ကြောင်း၊ Exhibit III , Sr.No 29ပါ Vehicle Transport သည်မော်တော်ကားကိုယ်ထည်ကို တပ်ဆင်စဥ် Chain ဖြင့်ဆင်ထားသည့် Line ဖြစ်ကြောင်း၊ လုပ်ငန်းအမျိုးအစားကို ပြင်ဆင်တင်ပြပေးမည်ဖြစ်ကြောင်း အဆိုပြုချက်တွင် စာလုံးပေါင်းမှားနေခြင်းများအပါအဝင် လိုအပ်ချက်များနှင့် ပြင်ဆင်တင်ပြပေးရန်သည်များကို ပြန်လည်ပြင်ဆင်တင်ပြပေးမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် အောင်ကမ္ဘာမော်တာဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Co., Ltd.)မှ မော်တော်ကား တပ်ဆင်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စအား အောက်ပါအတိုင်းဆုံးဖြတ်ပါသည်-

(က) လုပ်ငန်းအမျိုးအစားဖြည့်စွက်ပြင်ဆင်တင်ပြရန်။

(ခ) မြေငှားစာချုပ်(မူကြမ်း)တွင် မြေကွက်အမှတ်နှင့် မြေဧကမှားယွင်းမှုများအား ပြန်လည်ပြင်ဆင်တင်ပြရန်။

(ဂ) BAIC International Development Co.,Ltd နှင့်ချုပ်ဆိုထားသော Sales and After-sales Service Agreement အား အင်္ဂလိပ်ဘာသာဖြင့် သီးခြားဖော်ပြပေးရန်။

(ဃ) SKD,CKD နှင့်ပတ်သက်၍ မူအသစ်ထွက်လာပါက ၎င်းမူနှင့်အညီ ပြင်ဆင်တင်ပြရန်။

(င) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံစွာပြင်ဆင်တင်ပြလာပါက ကော်မရှင်အစည်းအဝေးသို့တင်ပြရန်။

**၁၅။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ကမ္ဘာတဝန်းအကြီးစား စက်မှုထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Global Heavy Industry Manufacturing Co.,Ltd.)မှ မော်တော်ယာဥ်အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ညွှန်ကြားရေးမှူး ဦးမင်းဇော်ဦးကအမှာစာကိုဖတ်ကြားပြီး ကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ ကမကထပြုသူ ဦးမျိုးသုခကျော်က အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့်ကမ္ဘာတဝန်းအကြီးစားစက်မှုထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Global Heavy Industry Manufacturing Co.,Ltd.)တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်-၂၊ မြေကွက်အမှတ် ၆၀ နှင့် ၆၂ ရှိ စုစုပေါင်း မြေဧရိယာ (၂.၁၇၃) ဧကတွင် မော်တော်ယာဥ်အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ရင်းနှီးမြှုပ်နှံ

| ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|
| ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိုစွန့်စပ်လျဉ်း၍-<br>(၁) လုပ်ငန်းအမျိုးအစားပြင်ဆင်ရန်။<br>(၂) ပြည်ပမှတင်သွင်းမည့် ပစ္စည်းစာရင်းကိုပြန်လည်စိစစ်ရန်။<br>(၃) ရာဘာသစ်ကုန်ကြမ်းရယူသုံးစွဲမည့်အစီအစဉ် အသေးစိတ်ဖော်ပြပေးရန်။<br>(၄) နိုင်ငံခြားငွေအထောက်အထားတင်ပြပေးရန်။<br>(၅) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံစွာ ပြင်ဆင် တင်ပြလာပါက ကော်မရှင် အစည်းအဝေးသို့တင်ပြရန်။ | Jewellery Lucky Production Co., Ltd. |
| (၄) မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Nature Timber Trading Co., Ltd. မှ သစ်အထပ်သား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအဆိုပြုချက် တင်ပြလာခြင်းကိုစွန့်စပ်လျဉ်း၍-<br>(၁) နိုင်ငံခြားငွေအထောက်အထားတင်ပြပေးရန်။<br>(၂) စက်မှုမြေငှားရန် လျှောက်ထားဆောင်ရွက်ရန်။<br>(၃) စက်ပစ္စည်းစာရင်းပြင်ဆင်တင်ပြရန်။<br>(၄) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံစွာပြင်ဆင် တင်ပြလာပါက ကော်မရှင် အစည်းအဝေးသို့တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့<br>Nature Timber Trading Co., Ltd. |
| (၅) မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် အောင်ကမ္ဘာမော်တာဝန်ဆောင်မှု ကုမ္ပဏီ လီမိတက် (Aung Gabar Motor Services Co., Ltd.)မှ မော်တော်ကား တပ်ဆင်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိုစွန့်စပ်လျဉ်း၍-<br>(၁) လုပ်ငန်းအမျိုးအစားဖြည့်စွက်ပြင်ဆင်တင်ပြရန်။<br>(၂) မြေငှားစာချုပ်(မူကြမ်း)တွင် မြေကွက်အမှတ်နှင့် မြေဧက မှား ယွင်းမှုများအား ပြန်လည် ပြင်ဆင်တင်ပြရန်။<br>(၃) BAIC International Development Co.,Ltd နှင့်ချုပ်ဆို ထားသော Sales and After-sales Service Agreement အား အင်္ဂလိပ်ဘာသာဖြင့် သီးခြားဖော်ပြပေးရန်။<br>(၄) SKD,CKD နှင့်ပတ်သက်၍ မူအသစ်ထွက်လာပါက ၎င်းမူနှင့် အညီ ပြင်ဆင်တင်ပြရန်။<br>(၅) သဘောထားများစုံလင်ပြီးလိုအပ်ချက်များ ပြည့်စုံစွာပြင်ဆင် တင်ပြလာပါက ကော်မရှင်အစည်းအဝေးသို့တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့<br>Aung Gabar Motor Services Co., Ltd. |

(11/2017) MIC Agenda
ဒေါ်နန်းခင်ခင်ထား

အကြောင်းအရာ။ ဆောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited)မှ မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ

အထူးဖိတ်
ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ်(၁) အကြီးစားစက်မှုလုပ်ငန်း

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် တင်ပြလာသော အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက်၏ ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၂၈-၁၂-၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၁၇-၂-၂၀၁၇ | ၂၃-၃-၂၀၁၇<br>၅-၆-၂၀၁၇ | |
| | (ခ) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန | ၁၆-၂-၂၀၁၇ | ၂၇-၂-၂၀၁၇ | |
| | (ဂ) စက်မှုဝန်ကြီးဌာန(ပထမအကြိမ်)<br>စက်မှုဝန်ကြီးဌာန(ဒုတိယအကြိမ်) | ၁၇-၂-၂၀၁၇<br>၂၇-၆-၂၀၁၇ | ၉-၃-၂၀၁၇<br>၁၃-၇-၂၀၁၇ | |
| | (ဃ) ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန | ၁၇-၂-၂၀၁၇ | ၈-၃-၂၀၁၇ | |
| | (င) စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန | ၁၇-၂-၂၀၁၇ | ၆-၃-၂၀၁၇ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၂/၂၀၁၇) သို့ တင်ပြခြင်း | ၉-၁-၂၀၁၇ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာပေးပို့ခြင်း | ၂၃-၁- ၂၀၁၇ | | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက် ပေးပို့ခြင်း | ၂၄-၁-၂၀၁၇ | | |
| ၆ | အဆိုပြုချက်ပြန်လည်ပေးပို့ခြင်း | ၈-၆-၂၀၁၇ | | |
| ၇ | ကုမ္ပဏီမှ ပြင်ဆင်ပြီး အဆိုပြုလွှာ အစုံ (၇) စုံ ပေးပို့ခြင်း | ၂၀-၆-၂၀၁၇ | | |
| | စုစုပေါင်းကြာမြင့်ရက် | (၁၇၄) ရက် | | |

မှတ်ချက်။ ကုမ္ပဏီမှ စက်မှုဝန်ကြီးဌာနနှင့် ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနများ၏ သဘောထားမှတ်ချက်နှင့်အညီ တင်ပြရန် ကြန့်ကြာနေခြင်းကြောင့် အဆိုပြုချက်အား ပြန်လည်ပေးပို့ရခြင်း ဖြစ်ပါသည်။

အကြောင်းအရာ။ **အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီ လီမိတက် (Aung Gabar Motor Services Company Limited)မှ မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁ | ကုမ္ပဏီ/ကမကထပြုသူအမည် | - အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက်<br>- ဦးအောင်စိန်(အဘ-ဦးရောင်ဝမ်ချင်) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - မော်တော်ယာဉ် တပ်ဆင် ထုတ်လုပ် ရောင်းချခြင်းနှင့် ပြုပြင် ထိန်းသိမ်းခြင်း လုပ်ငန်း |
| ၂ | တည်နေရာ | - ဦးပိုင်အမှတ်(၅၆/၂/က+၅၆/၂/ခ+ ၅၆/၂/ဃ+ ၅၇/၂)၊ ကွင်းအမှတ်-(၁၀၈၂ ^က^)၊ ဆားတလင်းကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃ | မြေပိုင်ရှင် | - ဦးအောင်စိန် (မြေ ၄.၈၈ဧက)<br>- ဦးမြင့်သိန်း (မြေ ၄.၆၅ ဧက)<br>- ဒေါ်အိမျိုးမျိုးခိုင် (မြေ ၄.၄၁ ဧက)<br>- ဒေါ်သန္တာစိုး (မြေ ၄.၇၀ ဧက) |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၁၈.၆၄ ဧက (၇၅၄၃၃.၄၇ စတုရန်းမီတာ)<br>- ၄၇၂.၅ ပေ x ၁၁၈ ပေ တစ်ထပ်အဆောက်အဦတစ်လုံး |
| | နှစ်စဉ်မြေငှားရမ်းခ | - ကျပ် ၄၈ သန်း |
| | မြေငှားသက်တမ်း | - ကနဦး ၃၀ နှစ် (၅နှစ် ၂ကြိမ်သက်တမ်းတိုး) |
| ၄ | တည်ဆောက်ရေးကာလ | - ၃နှစ် |
| | ပဏာမစုစမ်းလေ့လာမှုကာလ | - ၆လ |
| ၅ | စုစုပေါင်းမတည်ငွေရင်း | - ကျပ် ၂၈၆၃.၆၂ သန်း (အမေရိကန်ဒေါ်လာ ၁.၆၂ သန်း အပါအဝင်) |

| ထည့်ဝင်သည့်အမျိုးအစား | မြန်မာငွေ (ကျပ်သန်း) | US $ သန်း | စုစုပေါင်း (ကျပ်သန်း) |
|---|---|---|---|
| ငွေသား | ၆၀.၀၀ | - | ၆၀.၀၀ |
| အဆောက်အဦတန်ဖိုး | ၈၅၄.၉၄ | ၀.၈၁ | ၁၈၂၃.၃၄ |
| စက်နှင့်စက်ကိရိယာပစ္စည်းတန်ဖိုး (ပြည်ပ) | - | ၀.၈၁ | ၉၈၀.၂၈ |
| စုစုပေါင်း | ၉၁၄.၉၄ | ၁.၆၂ | ၂၈၆၃.၆၂ |

| | | |
|---|---|---|
| ၆ | ဝန်ထမ်းအင်အား(ပထမနှစ်) | - ၁၃၅ ဦး |
| | ပြည်တွင်း | - ၁၃၂ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ်၁၈၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၂,၁၀၀,၀၀၀ဖြစ်ပါသည်။) |

| | | |
|---|---|---|
| | ပြည်ပ | - ၃ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၂,၅၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၄,၀၀၀ ဖြစ်ပါသည်။) |
| ၇ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်းရောင်း ၁၀၀% |
| ၈ | ကုမ္ပဏီ၏ဝင်ငွေ (၆ နှစ်မြောက်) | - ကျပ် ၄၇.၇၅ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် | - ကျပ် ၄၇.၁၉ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် | - ကျပ် ၀.၅၆ သန်း |
| ၉ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (ဆဋ္ဌမနှစ်) | |
| | ဝင်ငွေခွန် | - ကျပ် ၀.၁၈ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၂.၂၇ သန်း<br>- အမေရိကန်ဒေါ်လာတစ်ဒေါ်လာလျှင်၁၂၀၀ကျပ်နှုန်းဖြင့်တွက်ချက်ထားပါ သည်။ |
| | အရင်းကြေကာလ | - ၅ နှစ် ၈ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) | - ၁၈.၈၂ % |
| ၁၀ | နှစ်စဉ်လျှပ်စစ်ဓာတ်အားလိုအပ်ချက် | - ၁,၅၀၀,၀၀၀ kWh |
| ၁၁ | ထုတ်လုပ်မှုနှင့် ရောင်းချမည့် ဈေးနှုန်း (၆နှစ်မြောက်) | |

| **အမျိုးအစား** | **အရေအတွက် (စီးရေ)** | **ဈေးနှုန်း (US$/စီးရေ)** |
|---|---|---|
| Model A113(M/T) 1.3 | ၅၀၀ | ၇,၀၀၀ |
| Model A115(A/T) 1.5 | ၁၅၀၀ | ၈,၅၀၀ |
| Model X25(A/T) 1.5 | ၂၀၀၀ | ၉,၅၀၀ |
| Model X55(A/T) 1.5T | ၁၀၀၀ | ၁၂,၅၀၀ |

| | | |
|---|---|---|
| ၁၂ | အခြား | - မြေအထောက်အထားအဖြစ် ဦးအောင်စိန်၊ ဦးမြင့်သိန်း၊ ဒေါ်သန္တာစိုး နှင့် ဒေါ်အိမျိုးမျိုးခိုင် အမည်ပေါက်မြေအထောက်အထား (မိတ္တူ) များ နှင့် ၁၅-၁၁-၂၀၁၆ရက်စွဲဖြင့် လန-၃၉ ခွင့်ပြုအမိန့် အား ယခင် ခေါက်ဆွဲ စက်ရုံ မြေနေရာအား မော်တော်ယာဉ် တပ်ဆင် ပြုပြင် ခြင်းနှင့် အရောင်းပြခန်းအတွက် ပြောင်းလဲ သုံးစွဲခွင့်ပြုပါရန် လျှောက်ထားသည့်အထောက်အထားများအားတင်ပြထားပါသည်။<br>- မြေပိုင်ရှင်ဦးအောင်စိန်၊ဦးမြင့်သိန်း၊ ဒေါ်သန္တာစိုး၊ ဒေါ်အိမျိုးမျိုးခိုင် နှင့်အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှုကုမ္ပဏီ လီမိတက်တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်းစာချုပ်(မူကြမ်း) တို့ကို တင်ပြထားပါသည်။ |

- အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်မှ မော်တော်ယာဉ်တပ်ဆင် ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအတွက် ထုတ်လုပ်ပုံအဆင့်ဆင့်နှင့် ထုတ်လုပ်မည့် နမူနာ မော်တော်ယာဉ် ဓာတ်ပုံများအားတင်ပြထားပါသည်။
- မော်တော်ယာဉ် ထုတ်လုပ်ပုံ အဆင့်ဆင့်၊ အဆောက်အဦ၏ Layout Plan ၊ တင်သွင်းမည့် စက်ပစ္စည်း ကိရိယာများ၏ ဓာတ်ပုံများ၊ ရင်းနှီးမြှုပ်နှံသူနှင့် ဒါရိုက်တာများ၏ နိုင်ငံသား စိစစ်ရေးကတ်(မိတ္တူ)၊ Form 6 နှင့် Form 26 တို့ကို တင်ပြထားပါသည်။
- အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်သည် ကုမ္ပဏီမှတ်ပုံတင်အမှတ်၊ ၂၁၈/၂၀၁၄-၂၀၁၅ ဖြင့် ၂၀၁၄ ခုနှစ် ဧပြီလ ၁၀ ရက်နေ့တွင် မှတ်ပုံတင်ထားသည့်အထောက်အထား၊ မော်တော်ယာဉ်တင်သွင်းခွင့်ဆိုင်ရာ ကြီးကြပ်ရေး ကော်မတီ၏ အရောင်းပြခန်းဖွင့်လှစ်၍ မော်တော်ယာဉ်အသစ်များ တင်သွင်း ရောင်းချခွင့်ပြုလက်မှတ်နှင့် ကုန်သွယ်ရေး ဦးစီးဌာန၊ ကုန်သွယ်မှု မူဝါဒဌာနခွဲမှ ထုတ်ပေးထားသည့်၄-၅-၂၀၁၆ ရက်စွဲဖြင့် Certificate of Business Representative နှင့် ၁၁-၁-၂၀၁၆ ရက်စွဲဖြင့် Certificate of Exporter/ Importer Registration များအား တင်ပြထားပါသည်။
- အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်မှ ၂၆-၃-၂၀၁၆ ရက်စွဲဖြင့် ဝင်ငွေခွန် ပေးဆောင်ထားသည့် အထောက်အထား တင်ပြထားပါသည်။
- ငွေကြေးအထောက်အထားအဖြစ် အောင်ကမ္ဘာ မော်တာဝန်ဆောင်မှု ကုမ္ပဏီလီမိတက်အမည်ဖြင့် Myanma Apex Bank တွင် ၂၅-၇-၂၀၁၇ ရက်စွဲဖြင့် ကျပ် ၄၄၅,၅၀၀,၀၀၀.၀၀ ရှိကြောင်း တင်ပြထားပါသည်။
- လုပ်ငန်းခွင်သာယာရေး အစီအစဉ်၊ မီးဘေးကာကွယ်ရေး အစီအစဉ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ရေး အစီအစဉ်၊ ဝန်ထမ်းများ၏ လစာကို ဝင်ငွေခွန်နှုန်းထားများအတိုင်း ပေးဆောင်မည်ဖြစ်ကြောင်းနှင့် Corporate Social Responsibility (CSR) အတွက် နှစ်စဉ်အသားတင် အမြတ်ငွေ၏၂% ထားရှိမည် ဖြစ်ကြောင်းတင်ပြထားပါသည်။
- ပထမနှစ်မှတတိယနှစ်အတွင်း SKD-1 စနစ်ဖြင့်သာ ဆောင်ရွက်မည်ဖြစ်ပြီး စတုတ္ထနှစ် မှစ၍ battery နှင့် Tyre အစိတ်အပိုင်းများကို ပြည်တွင်း၌ ဝယ်ယူ အသုံးပြုမည် ဖြစ်ပါသည်။
- ပဉ္စမနှစ်တွင် Floor Assembly (CKD Welding Assembly and Painting Assembly) အား ပြည်တွင်း၌ ထုတ်လုပ်သွားမည်ဖြစ်ပါသည်။

| | | |
|---|---|---|
| | | - ဆဌမနှစ်တွင် Front & Rear Bumper အစိတ်အပိုင်း တို့ကို ပြည်တွင်း၌ ထုတ်လုပ်သွားမည်ဖြစ်ပါသည်။<br>- သတ္တမနှစ်တွင် Side Wall and Roof အစိတ်အပိုင်းများကို ပြည်တွင်း၌ ထုတ်လုပ်သွားမည်ဖြစ်ပါသည်။<br>- အဌမနှစ်တွင် Door Cover အစိတ်အပိုင်းများကို ပြည်တွင်း၌ ထုတ်လုပ်သွားမည်ဖြစ်ပါသည်။<br>- နဝမနှစ်တွင် Complete Welding Assembly နှင့်ဒသမနှစ်တွင် Electrostatic Coating Complete Painting System အား တပ်ဆင်အသုံးပြုမည်ဖြစ်ပါသည်။<br>- ၁၀နှစ်မှ ၁၅နှစ်ခန့်အတွင်း မော်တော်ယာဉ် အစိတ်အပိုင်း ၁၀၀% အား ပြည်တွင်း၌ ထုတ်လုပ်နိုင်မည်ဖြစ်ကြောင်း တင်ပြထား ပါသည်။<br>- မော်တော်ယာဉ် ထုတ်လုပ်မှုအတွက် တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ BAIC International Development Co., Ltd. နှင့် ချုပ်ဆိုထားသော Technical Assistance Agreement၊ Vehicle Assembly Cooperation Agreement ၊ Trademarks License Agreement ၊ Sales and After-sales Service Agreement ၊ Technology License and Technical Support Agreement ၊ Claim Agreement (မိတ္တူ) များအား တင်ပြထားပါသည်။<br>- ထုတ်လုပ်မည့် မော်တော်ယာဉ်များအား တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ Beijing Automobile Industries Corporation (BAIC ) Brand ဖြင့် ထုတ်လုပ်မည်ဖြစ်ပါသည်။ |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီ လီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - | လီမိတက်ကုမ္ပဏီ (Private Company) |
| လုပ်ငန်းအမျိုးအစား | - | မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့်ပြုပြင်ထိန်းသိမ်းခြင်း လုပ်ငန်း |
| တည်နေရာ | - | ဦးပိုင်အမှတ်(၅၆/၂+၅၇/၂)၊ ကွင်းအမှတ်-(၁၀၈၂-က)၊ ဆားတလင်းကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းမတည်ရင်းနှီးငွေ | - | ကျပ် ၂၈၆၃.၆၂ သန်း (အမေရိကန်ဒေါ်လာ ၁.၆၂ သန်းအပါအဝင်) |
| ရောင်းချမည့်စနစ် | - | ပြည်တွင်း ၁၀၀% |
| အရင်းကြေကာလ | - | ၅ နှစ် ၈ လ |
| IRR | - | ၁၈.၈၂ % |

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကိုအောက်ပါဇယားဖြင့်ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်/သန်း) | Benefit (ကျပ်/သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ၃.၀၀ (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၀.၆၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၈၂.၈၀၀ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | - | ၇၇.၀၄ |
| ၅ | ဝင်ငွေခွန် | ၁၇.၆၄၀ | ၂၆၄၆.၀၄၉ |
| ၆ | ရေ/လောင်စာဆီ/လျှပ်စစ်မီးသုံးစွဲခ | | ၁၁၀.၇၀၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |
| ၈ | CSR ၂% | | ၁၇၄.၆၆၈ |
| ၉ | မြေငှားရမ်းခရငွေ | | ၄၃.၂၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းလုပ်သား (၁၃၂) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။<br>အလုပ်အကိုင်အခွင့်အလမ်းများပိုမိုရရှိစေပြီးဆင်းရဲနွမ်းပါးမှုလျော့ချရေးကို အထောက်အကူပြုစေနိုင်ပါသည်။ |
| | **စုစုပေါင်း** | **ကျပ် ၄၃၅.၂၉၅ သန်း** | **ကျပ် ၃၀၅၂.၃၂၂ သန်း** |
| | Cost : Benefit | ၁ : ၇ | |

ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၃/မ-၁၄၅၆ /၂၀၁၇( ၆၄၂ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇူလိုင်လ ၂၆ ရက်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ **အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီ လီမိတက် (Aung Gabar Motor Services Company Limited)မှမော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်း နှင့် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited)သည် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ဆားတလင်း ကျေးရွာအုပ်စု၊ ကွင်းအမှတ်-(၁၀၈၂^က)၊ ဦးပိုင်အမှတ် (၅၆/၂/က+၅၆/၂/ခ+၅၆/၂/ဃ+၅၇/၂)ရှိ မြေဧရိယာ ၁၈.၆၄ ဧက (၇၅၄၃၃.၄၇ စတုရန်း မီတာ)တွင် မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်း နှင့် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအောင်စိန် (အဘ-ဦးရောင်ဝမ်ချင်)မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင်ဦးအောင်စိန်၊ဦးမြင့်သိန်း၊ ဒေါ်သန္တာစိုး၊ ဒေါ်အိမ့်မျိုးမျိုးခိုင် နှင့် အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း) မော်တော်ယာဉ် ထုတ်လုပ်ပုံ အဆင့်ဆင့်၊ အဆောက်အဦ၏ Layout Plan ၊ တင်သွင်းမည့် စက်ပစ္စည်း ကိရိယာများ၏ ဓာတ်ပုံများ၊ ရင်းနှီးမြှုပ်နှံသူနှင့် ဒါရိုက်တာများ၏ နိုင်ငံသားစိစစ်ရေးကတ် (မိတ္တူ)၊ ကုမ္ပဏီ မှတ်ပုံတင်လက်မှတ်အမှတ် ၂၁၈/၂၀၁၄-၂၀၁၅၊ Form 6 နှင့် Form 26 (မိတ္တူ) များအားတင်ပြထားပါသည်။

၃။ မြေငှားရမ်းမှုသက်တမ်းမှာ ကနဦး နှစ် ၃၀ ဖြစ်ပြီး ၅နှစ် နှစ်ကြိမ် သက်တမ်းတိုးမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်မြေဧရိယာ ၁၈.၆၄ ဧက(၇၅၄၃၃.၄၇ စတုရန်းမီတာ)အား ငှားရမ်းမည်ဖြစ်ပြီး တစ်နှစ်လျှင် စုစုပေါင်းငှားရမ်းခမှာ ကျပ် ၄၈ သန်းဖြစ်ပါသည်။

၄။ တည်ဆောက်ရေးကာလမှာ ၃နှစ်နှင့်ပဏာမစမ်းသပ်လည်ပတ်မှုကာလမှာ ၆လ ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ ကျပ်၂၈၆၃.၆၂သန်း (အမေရိကန်ဒေါ်လာ ၁.၆၂သန်း အပါ အဝင်) ဖြစ်ပြီးအဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုအခြေအနေမှာအောက်ပါအတိုင်းဖြစ်ပါ သည်-

| ထည့်ဝင်သည့်အမျိုးအစား | မြန်မာငွေ (ကျပ်သန်း) | US $ (သန်း) | စုစုပေါင်း (ကျပ်သန်း) |
|---|---|---|---|
| ငွေသား | ၆၀.၀၀ | - | ၆၀.၀၀ |
| အဆောက်အဦတန်ဖိုး | ၈၅၄.၉၄ | ၀.၈၁ | ၁၈၂၃.၃၄ |
| စက်နှင့်စက်ကိရိယာပစ္စည်းတန်ဖိုး (ပြည်ပ) | - | ၀.၈၁ | ၉၈၀.၂၈ |
| **စုစုပေါင်း** | **၉၁၄.၉၄** | **၁.၆၂** | **၂၈၆၃.၆၂** |

ကန့်သတ်

၆။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း(၁၃၂)ဦးနှင့် ပြည်ပမှ ဝန်ထမ်း (၃)ဦး ခန့်ထားမည် ဖြစ်ပြီး ပြည်တွင်း အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏လစာမှာ ကျပ်၁၈၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၂,၁၀၀,၀၀၀ဖြစ်ပါသည်။ ပြည်ပ အနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ US$၂,၅၀၀ နှင့် အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏လစာမှာ US$ ၄,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်သော မော်တော်ယာဉ်များကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်(၆-နှစ်မြောက်)တွင် ထုတ်လုပ်မှုနှင့်ရောင်းချမည့်ဈေးနှုန်းများမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| **အမျိုးအစား** | **အရေအတွက် (စီးရေ)** | **ဈေးနှုန်း (US$/စီးရေ)** |
|---|---|---|
| Model A113(M/T) 1.3 | ၅၀၀ | ၇,၀၀၀ |
| Model A115(A/T) 1.5 | ၁၅၀၀ | ၈,၅၀၀ |
| Model X25(A/T) 1.5 | ၂၀၀၀ | ၉,၅၀၀ |
| Model X55(A/T) 1.5T | ၁၀၀၀ | ၁၂,၅၀၀ |

၈။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | **ကျပ်(သန်း)** |
|---|---|---|
| (က) | ဝင်ငွေ | ၄၇.၇၅ |
| (ခ) | အသုံးစရိတ် | ၄၇.၁၉ |
| (ဂ) | အသားတင် အမြတ် | ၀.၅၆ |

၉။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၀.၁၈ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၂.၂၇ သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေ ကာလမှာ ၅ နှစ်၈ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ ၁၈.၈၂%ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၁၂၀၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၁၀။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၊ စက်မှုဝန်ကြီးဌာန၊ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနနှင့် စီးပွားရေး နှင့်ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနများသို့ သဘောထားတောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ၁-၆-၂၀၁၇ရက်နေ့တွင်ကျင်းပပြုလုပ်သော ရန်ကုန်တိုင်း ဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၂၀/၂၀၁၇) ဆုံးဖြတ်ချက်အပိုဒ် (၄၃)အရ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား မှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့် ပတ်သက်၍ အောက်ဖော်ပြပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(၁) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility- CSR) အတွက် အသားတင်အမြတ်ငွေ၏ ၂%ကို အသုံးပြုခြင်း အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)**ကို ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၄၉)၊ (၆၃)နှင့်အညီ ဆောင်ရွက်ရန်။

(၃) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၅၊၄၆ တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း လုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါ လုပ်ငန်းကို ဆောင်ရွက်မည့် တတိယ ပုဂ္ဂိုလ်(သို့မဟုတ်)အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့်သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်။

(၄) ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း ဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇မှ အပိုဒ် ၅၄ အထိဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့် ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့် အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့တင်ပြအတည်ပြုချက် ရယူရန်။

(၅) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များ အပေါ်အခြေခံ၍ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၆၃)ပါ အချက်များနှင့်အညီ **ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)**ကို ဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်။

(၆) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင် စီမံခန့်ခွဲမှု**

**အစီအစဉ်** **(Environmental Management Plan-EMP)**အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များ နှင့်အညီ ရေးဆွဲ တင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၇) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင် ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့် အညီ လိုက်နာဆောင်ရွက်ရန်။ **နောက်ဆက်တွဲ (ခ)**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** မြန်မာနိုင်ငံ၏ ယာဉ်လမ်းကြောင်းသွားလာမှုစနစ်နှင့် အဆင်ပြေမည့် Left hand drive system များသာ ထုတ်လုပ်ရောင်းချရန်၊ မော်တော်ယာဉ် တပ်ဆင် ထုတ်လုပ်မှုအား Assemblyနှင့် Testing တွင်အသုံးပြုမည့် စက်ပစ္စည်းကိရိယာ (၂၅)မျိုးကို ပြည်ပမှတင်သွင်း၍ ဆောင်ရွက်သွားမည်ဖြစ်ပြီး၊ တတိယနှစ်မှ စတင် ဆောင်ရွက် မည့် Localization Parts များ ထုတ်လုပ်မှုအတွက် အသုံးပြုမည့် စက်ပစ္စည်းများနှင့် ထုတ်လုပ်မှု နည်းစဉ်များနှင့်စပ်လျဉ်း၍ ဖော်ပြထားခြင်းမရှိပါ၍ ပြည်တွင်း ထုတ်ပစ္စည်း အစိတ်အပိုင်း များအတွက် ထုတ်လုပ်မှုဆိုင်ရာ အစီအမံများဖော်ပြရန်၊ မြန်မာပြည်တွင် ထုတ်လုပ်မည့် မော်တော်ယာဉ်များဖြစ်သဖြင့် Chassis Code No သည် မြန်မာနိုင်ငံအတွက် သီးသန့်နံပါတ် ဖြင့်ဖော်ပြရန်လိုအပ်ပြီး အဆိုပါ Chassisတွင် ဖော်ပြမည့် Code No အတွက် အဓိပ္ပါယ် ဖော်ပြပေးရန်၊ SKD စနစ်ဖြင့်မော်တော်ယာဉ် တင်သွင်းတပ်ဆင်ထုတ်လုပ်မှု လုပ်ငန်းသည် နိုင်ငံတော်မှ ချမှတ်မည့်မူများနှင့်အညီ ဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ပြီး၊ ထုတ်လုပ်မှု လုပ်ငန်း အတွက် ပြည်ပမှတင်သွင်းမည့် စက်ပစ္စည်းကိရိယာများကို စက်ရုံ၌ အမှန်တကယ် တပ်ဆင် အသုံးပြုရန်၊ ပြည်တွင်းရှိ ပစ္စည်းအစိတ်အပိုင်းများ အစားထိုး အသုံးပြုရန်၊ ပြည်တွင်း၌ ထုတ်လုပ်မည့်အစိတ်အပိုင်းများ အမှန်တကယ် ထုတ်လုပ်နိုင်ရန်နှင့် CKDစနစ်သို့ ကူးပြောင်း နိုင်ရန် ကြိုးပမ်းဆောင်ရွက်ရန်၊ပြည်တွင်းထုတ်လုပ်မှုအတွက် မူရင်းကုမ္ပဏီ၏ စံချိန်စံညွှန်း များအတိုင်း လိုက်နာဆောင်ရွက်ရန်၊ ပစ္စည်းအရည်အသွေးပိုင်းဆိုင်ရာ နှင့်ဘေးအန္တရာယ် ကင်းရှင်းရေး အစီအမံများကို အလေးထား ဆောင်ရွက်သွားရန်နှင့် သုံးစွဲသူများ ယုံကြည် စိတ်ချမှုရှိစေရန် အာမခံစနစ်များ ဆောင်ရွက်သွားရန်၊ မော်တော်ယာဉ် ၏ Component Part များမှာယူတင်သွင်းရာတွင် Brand New ဖြစ်ရန်နှင့် မော်တော်ယာဉ်တင်သွင်းမှုကြီးကြပ်ရေး ကော်မတီ၏ မူဝါဒနှင့်အညီ လိုက်နာရန်လိုအပ်ကြောင်း စိစစ်ချက် ပြန်ကြားလာခြင်းအပေါ် **ကုမ္ပဏီမှ သဘောထား မှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြချက်အား စက်မှုဝန်ကြီးဌာနမှစိစစ် လက်ခံပြီးဖြစ်ပါသည်။** **နောက်ဆက်တွဲ(ဂ)**

(ဃ) **ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့် ပတ်သက်၍ တစ်ဖက်ပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည် -

(၁) မော်တော်ယာဉ်များအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ နှင့်အညီ မြန်မာနိုင်ငံ အတွင်းတပ်ဆင်ထုတ်လုပ်ရာတွင် လိုက်နာဆောင်ရွက်ရမည့် သတ်မှတ်ချက်များ-

(က) ASEAN Motor Vehicle Requirement Standard နှင့် ညီညွတ်ရန်။

(ခ) မော်တော်ယာဉ် နည်းဥပဒေများပါ မော်တော်ယာဉ်များတည်ဆောက်ခြင်း ပြဋ္ဌာန်းချက်များနှင့်အညီထုတ်လုပ်ရန်။

(ဂ) ထုတ်လုပ်မည့်မော်တော်ယာဉ်၏ အမျိုးအမည်၊ Model Year အတွက် ပုံစံအတည်ပြုသတ်မှတ်ချက်ရရှိပြီးဖြစ်ရန်၊ထုတ်လုပ်မည့်မော်တော်ယာဉ်နှင့် ပတ်သက်သည့် Specificationများပြည့် စုံစွာဖော်ပြရန်။

(ဃ) အများပြည်သူဆိုင်ရာလမ်းများပေါ်တွင် အန္တရာယ်ကင်းပြီး လုံခြုံစိတ်ချစွာ မောင်းနှင်အသုံးပြုနိုင်ရေးအတွက် မော်တော်ယာဉ်စမ်းသပ်စစ်ဆေးသည့် အလုပ်ရုံ (Vehicle Testing Workshop)တွင်ရှိသော Inspection Test Lane ဖြင့် ကြံ့ခိုင်မှုစစ်ဆေးပြီး အောင်မြင်မှသာလျှင် ဈေးကွက်အတွင်းသို့ ဖြန့်ဖြူးရောင်းချရန်။

(၂) မော်တော်ယာဉ်များအား ထုတ်လုပ်ချိန်တွင် ကနဦးမှတ်ပုံတင်ပြုလုပ် ပေးနိုင်ရန် အတွက် ကုမ္ပဏီမှ ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာနသို့ တစ်ဖက်ပါ အထောက်အထားများဖြင့် လျှောက်ထားရမည်-

(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်လုပ်ခွင့်ပြုထားသော Brand, Model,Year အလိုက်ထုတ်လုပ်ခွင့်ပြုသည့်အရေအတွက် ဖော်ပြထားသော အထောက်အထား။

(ခ) မူရင်းကုမ္ပဏီတည်ရှိသောနိုင်ငံ၏ Authority မှ အဆိုပါယာဉ်ထုတ်လုပ်ခွင့် ပြုသော အထောက်အထား(Type Certificate)။

(ဂ) မူရင်းကုမ္ပဏီမှ အဆိုပါယာဉ် ထုတ်လုပ်ခွင့်ပြုထားကြောင်းအထောက်အထား။

(ဃ) ထုတ်လုပ်ပြီးယာဉ်၏ Inspection Certificate တွင် မြန်မာပြည်တွင်းရှိ ထုတ်လုပ်သော ကုမ္ပဏီမှ Quality Control Engineer နှင့်အတူ မူရင်း ကုမ္ပဏီမှ Quality Control Engineer ပူးတွဲလက်မှတ်ထိုး အတည်ပြုမှု အထောက်အထား။

(င) ထုတ်လုပ်ပြီးယာဉ်တွင် မူရင်းကုမ္ပဏီ၏ Vehicle Identification Number Plate(Vin Plate) တပ်ဆင်ပေးမှု။ **နောက်ဆက်တွဲ(ဃ)**

(င) **စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနမှ** အဆိုပြုတင်ပြမှုနှင့် ပတ်သက်၍ ဆောင်ရွက်မည့် လုပ်ငန်းစဉ်ပါအတိုင်း လက်တွေ့ အကောင်အထည်ဖော် ဆောင်ရွက်ပါက ပြည်တွင်းတွင် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိလာနိုင်ပြီး ပြည်ပမှ မော်တော်ကား ထုတ်လုပ်သည့် နည်းပညာများလည်းရရှိလာနိုင်မည်ဟု ယူဆရသဖြင့်သက်ဆိုင်ရာဌာနများ၏

ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများနှင့် ညီညွတ်ပါက ယင်းကိစ္စရပ်အပေါ် ကန့်သွယ်မှု ရှုထောင့်မှကန့်ကွက်ရန်မရှိပါကြောင်းသဘောထားမှတ်ချက်ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ(င)**

၁၁။ ငွေကြေးအထောက်အထားအဖြစ် အောင်ကမ္ဘာ မော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်အမည်ဖြင့် Myanma Apex Bank တွင် ၂၅-၇-၂၀၁၇ ရက်စွဲဖြင့် ကျပ် ၄၄၅,၅၀၀,၀၀၀.၀၀ ရှိကြောင်းတင်ပြထားပါသည်။

၁၂။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများဖြင့်သာ ဖွဲ့စည်းတည်ထောင်ထားသော ကုမ္ပဏီ ဖြစ်ပြီး နိုင်ငံခြားမှ မည်သူမှ ပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်မည်ကြောင်း၊ စက်ရုံကိုမီးအာမခံထားရှိမည်ဖြစ်ကြောင်း နှင့် မီးဘေးလုံခြုံရေးစီမံချက်များကို ရေးဆွဲတင်ပြထားပါသည်။ ထို့အပြင် ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်နှင့် တစ်နှစ်လျှင် လစာဝင်ငွေ ကျပ်၄ဂသိန်း နှင့် အထက်ရရှိသော ဝန်ထမ်းများအတွက် ဝင်ငွေခွန်ပေးဆောင်မည် ဖြစ်ကြောင်းတင်ပြထား ပါသည်။

၁၃။ အောင်ကမ္ဘာမော်တာဝန်ဆောင်မှု ကုမ္ပဏီလီမိတက်မှ နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂% အား Corporate Social Responsibility (CSR) အဖြစ်အသုံးပြုမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၉ ရက်နေ့တွင် ကျင်းပသော(၂/၂၀၁၇) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ၂၀(က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါမည်။

၁၆။ **စိစစ်တင်ပြချက်**

(က) ပထမနှစ်မှတတိယနှစ်အတွင်း SKD-1 စနစ်ဖြင့်သာ ဆောင်ရွက်မည်ဖြစ်ပြီး စတုတ္ထနှစ်မှစ၍ battery နှင့် Tyre အစိတ်အပိုင်းများကို ပြည်တွင်း၌ ဝယ်ယူအသုံးပြုမည်ဖြစ်ပါသည်။

(ခ) ပဥ္စမနှစ်တွင် Floor Assembly (CKD Welding Assembly and Painting Assembly) အား ပြည်တွင်း၌ ထုတ်လုပ်သွားမည် ဖြစ်ပါသည်။

(ဂ) ဆဋ္ဌမနှစ်တွင် Front & Rear Bumper အစိတ်အပိုင်း တို့ကို ပြည်တွင်း၌ ထုတ်လုပ်သွား မည်ဖြစ်ပါသည်။

(ဃ) သတ္တမနှစ်တွင် Side Wall and Roof အစိတ်အပိုင်းများကိုပြည်တွင်း၌ ထုတ်လုပ်သွားမည် ဖြစ်ပါသည်။

(င) အဌမနှစ်တွင် Door Cover အစိတ်အပိုင်းများကို ပြည်တွင်း၌ ထုတ်လုပ်သွားမည်ဖြစ်ပါသည်။

(စ) နဝမနှစ်တွင် Complete Welding Assembly နှင့်ဒသမနှစ်တွင် Electrostatic Coating Complete Painting System အား တပ်ဆင်အသုံးပြုမည်ဖြစ်ပါသည်။

(ဆ) ၁၀နှစ်မှ ၁၅နှစ်ခန့်အတွင်း မော်တော်ယာဉ် အစိတ်အပိုင်း ၁၀၀%အားပြည်တွင်း၌ ထုတ်လုပ်နိုင်မည်ဖြစ်ကြောင်းတင်ပြထားပါ သည်။

(ဇ) မော်တော်ယာဉ် ထုတ်လုပ်မှုအတွက် တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ BAIC International Development Co., Ltd. နှင့် ချုပ်ဆို ထားသော Technical Assistance Agreement၊ Vehicle Assembly Cooperation Agreement ၊ Trademarks License Agreement ၊ Sales and After-sales Service Agreement ၊ Technology License and Technical Support Agreement ၊ Claim Agreement (မိတ္တူ) များအား တင်ပြထားပါသည်။

(ဈ) ထုတ်လုပ်မည့် မော်တော်ယာဉ်များအား တရုတ် ပြည်သူ့ သမ္မတနိုင်ငံ မှ Beijing Automobile Industries Corporation (BAIC ) Brand ဖြင့် ထုတ်လုပ်မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် အောင်ကမ္ဘာ မော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် တည်ထောင်၍ ဦးပိုင်အမှတ်(၅၆/၂/က+၅၆/၂/ခ+၅၆/၂/ဃ+၅၇/၂)၊ ကွင်းအမှတ်-(၁၀၈၂<sup>က</sup>)၊ ဆားတလင်းကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁၈.၆၄ ဧက (၇၅၄၃၃.၄၇ စတုရန်းမီတာ)တွင် မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ မတ် လ ၂၃ ရက်

သို့

M 507
24/3

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇.၂.၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၃/ မ-၁၄၅၆/၂၀၁၇(၂၆၂)

၁။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Aung Gabar Motor Company Limited)သည် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ဆားတလင်းကျေးရွာအုပ်စု၊ ကွင်းအမှတ် (၁၀၈၂-က)၊ ဦးပိုင်အမှတ် (၅၆/၂+၅၇/၂)ရှိ မြေဧရိယာ ၁၈.၆၄ ဧက (၇၅၄၃၃.၄၇ စတုရန်းမီတာ)တွင် မော်တော်ကားတပ်ဆင်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ကုမ္ပဏီအနေဖြင့် ကားတင်သွင်းမှုနှင့် ပတ်သက်သော လုပ်ထုံးလုပ်နည်းများအား သက်ဆိုင်ရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အတူ ပူးတွဲတင်ပြမှသာ သဘောထားမှတ်ချက် ပြန်ကြားနိုင်မည်ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဥ္ဇာမြိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှုကုမ္ပဏီလီမိတက်
လက်ခံစာတွဲ/မျှောစာတွဲ

D/2017/Lesson(Hotel),5

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇွန် လ ၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅.၄.၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၃/ မ-၁၄၅၆/၂၀၁၇(၄၅၂)

၁။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited)သည် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ဆားတလင်းကျေးရွာအုပ်စု၊ ကွင်းအမှတ်(၁၀၈၂-က)၊ ဦးပိုင်အမှတ် (၅၆/၂+၅၇/၂)ရှိ မြေဧရိယာ ၁၈.၆၄ ဧက (၇၅၄၃၃.၄၇ စတုရန်းမီတာ)တွင် မော်တော်ကားတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံကော်မရှင်မှ ညှိနှိုင်းအကြောင်းကြားလာခြင်းနှင့်စပ်လျဉ်း၍ ကုမ္ပဏီအနေဖြင့် ကားတင်သွင်းမှုနှင့်ပတ်သက်သော လုပ်ထုံးလုပ်နည်းများအား သက်ဆိုင်ရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အတူ ပူးတွဲတင်ပြမှသာ သဘောထားမှတ်ချက် ပြန်ကြားနိုင်မည်ဖြစ်ပါကြောင်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ သဘောထားပြန်ကြားခဲ့ပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Aung Gabar Motor Services Companny Limited)၏ အဆိုပြုချက်အပေါ် သဘောထားပြန်ကြားပေးနိုင်ပါရန် စက်မှုဝန်ကြီးဌာန၊ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနများ၏ သဘောထားမှတ်ချက်(မိတ္တူ)များကိုပူးတွဲ၍ ရည်ညွှန်းပါစာဖြင့် ပေးပို့လာမှုအပေါ် ၁.၆.၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၀/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၄၃)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

D/2017/Cabinet/20.,(8)

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှည်းကူးမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှုကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝ၀၁/ MIC(OSS) /ဝ၁(၈၇ / ၁၇ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၂၇ ရက်

M-341
27/2

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Aung Gabar Motor Company Limited မှ မော်တော်ကား တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၁၆-၂-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၃/ မ- ၁၄၅၆/ ၂၀၁၇(၂၆၃)

၁။ အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited) မှ ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ဆားတလင်းကျေးရွာအုပ်စု၊ ကွင်းအမှတ်- ၁၀၈၂- က၊ ဦးပိုင်အမှတ်- ၅၆/၂+၅၇/၂ ရှိ မြေဧရိယာ ၁၈.၆၄ ဧက (၇၅၄၃၃.၄၇ စတုရန်းမီတာ) ပေါ်တွင် မော်တော်ကားတပ်ဆင်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ စိစစ်ပြီးသဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ကနဦးရင်းနှီးမြှုပ်နှံမှု ကာလမှာ (၃၀) နှစ်ဖြစ်ပြီး၊ လုပ်ငန်းတည်ဆောက်မည့် ကာလမှာ (၃) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းဖြစ်သည့် မော်တော်ယာဉ် တပ်ဆင်ထုတ်လုပ်မှုအတွက် တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ BAIC International Development Co., Ltd. နှင့် အမှတ်တံဆိပ်သုံးစွဲခွင့်နှင့် အခြားထုတ်လုပ်မှုဆိုင်ရာ သဘောတူညီချက် စာချုပ်များချုပ်ဆိုပြီးဖြစ်ကြောင်း၊

(ဂ) ထုတ်လုပ်မှုအနေဖြင့်ကားအမျိုးအစားမော်ဒယ် (၄) မျိုးကိုပထမနှစ်တွင် စုစုပေါင်းအစီးရေ (၁၅၀၀) မှ ရင်းနှီးမြှုပ်နှံမှု ကာလနှစ် (၃၀) အတွင်းအစီးရေစုစုပေါင်း (၅၀၀၀) အထိတိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းအတွက် အသုံးပြုမြေဧရိယာမှာ (၇၅၄၃၃.၄၇ စတုရန်းမီတာ) ရှိပြီး (၅၈၇၇၁ စတုရန်းမီတာ) ရှိသည့် စက်ရုံအဆောက်အဦး (၁) လုံး၊ ဓာတ်အားပေးစက် (၁) ရုံ၊ ကားရပ်နားထားရှိရန် နေရာနှင့်လမ်းများ၊ မော်တော်ကားတပ်ဆင်ထုတ်လုပ်ရာတွင်အသုံးပြုမည့် စက်ရုံတွင်းထုတ်လုပ်မှုလမ်းများနှင့် စက်ယန္တယားများတည်ဆောက်တပ်ဆင်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းခွင်သာယာရေးနှင့် သက်သာချောင်ချိရေးစီမံချက်၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်များကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင်ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုမရှိစေရန် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ဥပဒေ၊ နည်း ဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပြုလုပ်ငန်းများဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited) မှ မော်တော်ကား တပ်ဆင်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် မော်တော်ယာဉ်၏ဘော်ဒီပိုင်း၊ အင်ဂျင်ပိုင်း၊ ဂီယာပိုင်း၊ ဖရိန်ပိုင်းနှင့် အခြားအစိတ်အပိုင်းအားလုံး ပြည်ပမှမှာယူတင်သွင်းပြီး စက်ရုံ၌ တပ်ဆင်ခြင်းလုပ်ငန်းကိုသာဆောင်ရွက်မည်ဖြစ်ပြီး လုပ်ငန်းတစ်ခုလုံး၏ အဆင့်တိုင်းတွင်စက်များကို အသုံးပြုဆောင်ရွက်ရမည်ဖြစ်သဖြင့် အသံဆူညံခြင်း၊

(ခ) ဂဟေဆော်ခြင်းနှင့် စက်ပစ္စည်းကိရိယာများမှ ထွက်ရှိလာမည့် အခိုး၊ အငွေ့၊ အနံ့အသက်များနှင့် ဆေးမှုတ်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် အနံ့အသက်များကြောင့် လေထုညစ်ညမ်းခြင်း၊ လုပ်ငန်းခွင် လုပ်သားများတွင် မျက်စေ့နှင့် အသက်ရှူလမ်းကြောင်းဆိုင်ရာ ရောဂါများဖြစ်ပွားစေနိုင်ပြီး ပတ်ဝန်းကျင်ရှိပြည်သူလူထုကို အနှောင့်အယှက် ဖြစ်စေနိုင်ခြင်း၊

(ဂ) အလုပ်ရုံမှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများဖြစ်သော စွန့်ပစ်အရည်/အစိုင်အခဲများနှင့် ဝန်ထမ်းများ၏ မိလ္လာစွန့်ပစ်ပစ္စည်းများ၊ အရည်များကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းစေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

(ဃ) ထုတ်လုပ်မှုလုပ်ငန်းအဆင့်ဆင့်တွင် စက်ပစ္စည်းများ အသုံးပြုဆောင်ရွက်ရသဖြင့် စက်ယန္တရားများ၏ စွန့်ပစ်ပစ္စည်းများဖြစ်သည့် စက်သုံးဆီ၊ ချောဆီများနှင့် ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် အသံညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊

(င) အဆိုပြုလုပ်ငန်းအတွက် အဆောက်အဦ တည်ဆောက်ရာတွင် ပစ္စည်းသယ်ယာဉ်များ၊ စက်ယန္တရားများ အသုံးပြုခြင်းကြောင့် ပတ်ဝန်းကျင်ရှိ မြေထုနှင့်လေထုတို့အားညစ်ညမ်းမှုများနှင့် အသံဆူညံမှုများဖြစ်ပေါ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited) မှ မော်တော်ကား တပ်ဆင်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကိုဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် (၄၉)၊ (၆၃) နှင့်အညီဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့် ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီလေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါ အချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက်သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့်

လိုက်နာဆောင်ရွက် ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့် အညီ လိုက်နာဆောင်ရွက်ရန်၊

(ဇ) သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

MPF-978
10.3.17

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၆-၂၀၁၇(၃၂၉၀)
ရက်   စွဲ၊ ၂၀၁၇ ခုနှစ်၊ မတ်လ ၉ ရက်

သို့

M.396
13/3

✓ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇.၂.၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၃/ မ-၁၄၅၆ / ၂၀၁၇ (၂၆၆)

၁။ အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ဆားတလင်းကျေးရွာအုပ်စု၊ ကွင်းအမှတ်(၁၀၈၂-က)၊ ဦးပိုင်အမှတ်( ၅၆/၂+ ၅၇/၂)တွင် မော်တော်ကားတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) တရုတ်နိုင်ငံထုတ် BAIC အမှတ်တံဆိပ်ဖြင့် လူစီးမော်တော်ယာဉ် Model (၄)မျိုးအား SKD စနစ်ဖြင့် ပြည်ပမှ တင်သွင်း၍ နှစ်အလိုက် တပ်ဆင်ထုတ်လုပ်ရောင်းချသွားမည်ဖြစ်ပါသည်။

(ခ) မြန်မာနိုင်ငံ၏ ယာဉ်လမ်းကြောင်းသွားလာမှုစနစ်နှင့် အဆင်ပြေမည့် Left hand drive system များသာ ထုတ်လုပ်ရောင်းချရန် လိုအပ်ပါသည်။

(ဂ) SKD စနစ်တွင် အနည်းဆုံး ပါဝင်သင့်သည့် မော်တော်ယာဉ် ပစ္စည်းအစိတ်အပိုင်း အုပ်စု(၉)မျိုးဖြင့် ပြည်ပမှ တင်သွင်း၍ တပ်ဆင်ထုတ်လုပ်မည်ဖြစ်ပြီး နှစ်အလိုက် Localization Parts များကို အစားထိုး တပ်ဆင်ထုတ်လုပ်သွားမည်ဖြစ်ကြောင်းနှင့် မော်တော်ယာဉ်တစ်စီး၏ (၂၀-၃၀) ရာခိုင်နှုန်းခန့်အား ပြည်တွင်းတွင် ထုတ်လုပ်နိုင်ရန် ကြိုးစားဆောင်ရွက်မည်ဖြစ်ပါသည်။

(ဃ) SKD စနစ်ဖြင့် ပထမ(၁)နှစ်တွင် စတင်ထုတ်လုပ်၍ နှစ်အလိုက် Localization Parts များ တိုးမြှင့်ထုတ်လုပ်ပြီး CKD စနစ်သို့ ပြောင်းလဲထုတ်လုပ်သွားရန် ဖော်ပြထားပါသည်။

( င ) မော်တော်ယာဉ် တပ်ဆင်ထုတ်လုပ်မှုအား Assembly နှင့် Testing တွင်အသုံးပြုမည့် စက်ပစ္စည်းကိရိယာ(၂၅)မျိုးကို ပြည်ပမှ တင်သွင်း၍ ဆောင်ရွက်သွားမည်ဖြစ်ပြီး၊ ဒုတိယနှစ်မှ စတင်ဆောင်ရွက်မည့် Localization Parts များ ထုတ်လုပ်မှုအတွက် အသုံးပြုမည့် စက်ပစ္စည်းများနှင့် ထုတ်လုပ်မှုနည်းစဉ်များနှင့်စပ်လျဉ်း၍ ဖော်ပြထားခြင်းမရှိပါ၍ ပြည်တွင်းထုတ်ပစ္စည်းအစိတ်အပိုင်းများအတွက် ထုတ်လုပ်မှုဆိုင်ရာ အစီအမံများ ဖော်ပြရန် လိုအပ်ပါသည်။

( စ ) မြန်မာပြည်တွင် ထုတ်လုပ်မည့် မော်တော်ယာဉ်များဖြစ်သဖြင့် Chassis Code No သည် မြန်မာနိုင်ငံအတွက် သီးသန့်နံပါတ်ဖြင့် ဖော်ပြရန် လိုအပ်ပြီး အဆိုပါ Chassis တွင် ဖော်ပြမည့် Code No အတွက် အဓိပ္ပါယ်ဖော်ပြပေးရန် လိုအပ်ပါသည်။

(ဆ) SKD စနစ်ဖြင့် မော်တော်ယာဉ် တင်သွင်းတပ်ဆင်ထုတ်လုပ်မှုလုပ်ငန်းသည် နိုင်ငံတော်မှ ချမှတ်မည့် မူများနှင့်အညီ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပြီး၊ ထုတ်လုပ်မှုလုပ်ငန်းအတွက် ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းကိရိယာများကို စက်ရုံ၌ အမှန်တကယ် တပ်ဆင်အသုံးပြုရန်၊ ပြည်တွင်းရှိ ပစ္စည်းအစိတ်အပိုင်းများ အစားထိုးအသုံးပြုရန် ၊ ပြည်တွင်း၌ ထုတ်လုပ်မည့် အစိတ်အပိုင်းများ အမှန်တကယ် ထုတ်လုပ်နိုင်ရန်နှင့် CKD စနစ်သို့ ကူးပြောင်းနိုင်ရန် ကြိုးပမ်းဆောင်ရွက်သွားရန် လိုအပ်ပါသည်။

( ဇ ) ပြည်တွင်းထုတ်လုပ်မှုအတွက် မူရင်းကုမ္ပဏီ၏ စံချိန်စံညွှန်းများအတိုင်း လိုက်နာဆောင်ရွက်ရန်၊ ပစ္စည်းအရည်အသွေးပိုင်းဆိုင်ရာနှင့် ဘေးအန္တရာယ်ကင်းရှင်းရေး အစီအမံများကို အလေးထားဆောင်ရွက်သွားရန်နှင့် သုံးစွဲသူများ ယုံကြည်စိတ်ချမှုရှိစေရန် အာမခံစနစ်များ ဆောင်ရွက်သွားရန် လိုအပ်ပါသည်။

( ဈ ) မော်တော်ယာဉ်၏ Component Part များ မှာယူတင်သွင်းရာတွင် Brand New ဖြစ်ရန် လိုအပ်ပါသည်။

(ည) မော်တော်ယာဉ် တင်သွင်းမှုကြီးကြပ်ရေးကော်မတီ၏ မူဝါဒနှင့်အညီ လိုက်နာရန် လိုအပ်ပါသည်။

(ဋ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဌ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁ % သုံးစွဲရန် လိုအပ်ပါသည်။

(ဍ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက်မှ မော်တော်ကားတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အထက်ဖော်ပြပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး( ကိုယ်စား )
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

- စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
- အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်း
- ရုံးလက်ခံ

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☏ -၀၁-၆၅၈၁၂၈ | စာအမှတ်၊မရက-၃/မ- ၁၄၅၆/၂၀၁၇( ၅၄၉ )

🖷 -၀၁-၆၅၈၁၄၁ | ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇွန်လ ၂၃ ရက်

M- 836
13/7

**အဆိုပြုလွှာအပေါ်ထပ်မံစိစစ်ချက်**

၁။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Aung Gabar Motor Services Company Limited) မှ မော်တော်ကား တပ်ဆင် ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း အဆိုပြုချက်အပေါ်ဌာန၏ လမ်းညွှန်ချက်နှင့်အညီ ပြန်လည်ပြင်ဆင်တင်ပြလာပါသည်။

| စဉ် | ဌာန | စိစစ်သူ | | စိစစ်ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| (က) | စက်မှုဝန်ကြီးဌာန | | | လက်ခံနိုင်ပါသည်/<br>ပြန်လည်စိစစ်ရန်<br>လိုအပ်ပါသည်/<br>လက်မခံနိုင်ပါ | |
| (ခ) | အမှတ်(၁)အကြီးစား<br>စက်မှုလုပ်ငန်း | ဦးကျော်[illegible] | MD | လက်ခံနိုင်ပါသည်/ ✓<br>ပြန်လည်စိစစ်ရန်<br>လိုအပ်ပါသည်/<br>လက်မခံနိုင်ပါ | |

၂။ ၎င်းပြင်ဆင်ချက်ကို အထက်ပါဇယားတွင် စိစစ်မှတ်ချက်ပြုပေးနိုင်ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(စိုးမြင့်အောင်၊ညွှန်ကြားရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

checking ကန့်သတ် Inv(2)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ စက - ၁၄/ ၂(၁) - ၄၉ /၂၀၁၇ ( ၁၂ )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ၊ ဧပြီလ ၂၁ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ထပ်မံတောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇ - ၂ - ၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက -၃/ မ - ၁၄၅၆/ ၂၀၁၇ ( ၂၆၄ )

(၂) စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၏ ၆-၃-၂၀၁၇ ရက်စွဲပါစာအမှတ်၊ စက - ၁၄/ ၁(၂) - ၂၉/ ၂၀၁၇ (၁၃)

(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂-၄-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက - ၃/ မ - ၁၄၅၆/ ၂၀၁၇ (၄၄၃)

၁။ အောင်ကမ္ဘာမော်တာ ဝန်ဆောင်မှုကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ဆားတလင်းကျေးရွာအုပ်စု၊ ကွင်းအမှတ် ( ၁၀၈၂-က)၊ ဦးပိုင်အမှတ် (၅၆/ ၂+၅၇/၂) ရှိ မြေဧရိယာ ၁၈.၆၄ ဧက ( ၇၅၄၃၃.၄၇ စတုရန်းမီတာ ) တွင် မော်တော်ကား တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်း (၁) ပါစာဖြင့် အကြောင်းကြားလာခြင်းအား ရည်ညွှန်း (၂) ပါစာဖြင့် ပေးပို့ထားပြီး ဖြစ်ပါသည်။

၂။ သို့ရာတွင် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနမှ သဘောထား ပြန်ကြားလာခြင်းမရှိသေးပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးသို့ တင်ပြနိုင်ရန်အတွက် သဘောထားမှတ်ချက်အား ဆောလျင်စွာ ပြန်ကြားပေးပါရန် ရည်ညွှန်း (၃) ပါစာဖြင့် ထပ်မံ အကြောင်းကြားလာပါသည်။

၃။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနအနေဖြင့် သဘောထားမှတ်ချက်အား ၂၀၁၇ ခုနှစ်၊ မတ်လ ၆ ရက်နေ့တွင် ပြန်ကြားထားပြီး ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

**ပူးတွဲ - ရည်ညွှန်း ( ၂ ) ပါစာမိတ္တူ။**

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( တိုးအောင်မြင့်၊ အမြဲတမ်းအတွင်းဝန် )

\\172.16.129.34\d\Section (1)\2nd Hluttaw\2 nd Hluttaw ( Five )\To Other Ministry.doc13

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ စက-၁၄/၁(၂)-၂၉/၂၀၁၇( ၁၃ )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ၊ မတ်လ ၎ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားပေးပို့ခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇-၂-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၃/ မ-၁၄၅၆/၂၀၁၇(၂၆၄)

၁။ အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ဆားတလင်းကျေးရွာအုပ်စု၊ ကွင်းအမှတ် (၁၀၈၂-က)၊ ဦးပိုင်အမှတ် (၅၆/၂+၅၇/၂) ရှိ မြေဧရိယာ ၁၈.၆၄ ဧက (၇၅၄၃၃.၄၇ စတုရန်းမီတာ) တွင် မော်တော်ကားတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပါရှိသည့် စာချုပ်(မူကြမ်း)အား လေ့လာစိစစ်ရာတွင် အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက်မှ မြေငှားရမ်း၍ ဆောင်ရွက်လိုသောလုပ်ငန်းမှာ မော်တော်ကားတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဖြစ်သောကြောင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် (၂၆/၂၀၁၆) ဖြင့် သတ်မှတ်ထားသော ခွင့်မပြုသည့် စီးပွားရေးလုပ်ငန်းများစာရင်းတွင် ပါဝင်ခြင်းမရှိကြောင်းနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့်ပေးရန် တင်ပြထားကြောင်း လေ့လာသိရှိရပါသည်။

၃။ ထို့အပြင် အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက်ကုမ္ပဏီ၏ Profile အားစိစစ်ရာတွင် ကုန်သွယ်ရေးဦးစီးဌာနတွင် ကုန်သွယ်မှုပြုလုပ်ရန်အတွက် (၂၀-၅-၂၀၁၄) ရက်နေ့မှစတင်၍ မှတ်ပုံတင်ထားပြီး (၉-၄-၂၀၁၉) ရက်နေ့တွင် သက်တမ်းကုန်ဆုံးမည်ဖြစ်ပါကြောင်းနှင့် ပို့ကုန်သွင်းကုန်လုပ်ငန်းရှင်အဖြစ် မှတ်ပုံတင်ထားသော ယင်းကုမ္ပဏီ၏ သက်တမ်းသည် (၂)နှစ်နှင့် (၁၀) လနီးပါးရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၄။ သို့ဖြစ်ပါ၍ အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက်မှ မော်တော်ကားတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြမှုနှင့်ပတ်သက်၍ ဆောင်ရွက်မည့်လုပ်ငန်းစဉ်ပါအတိုင်း လက်တွေ့အကောင်အထည်ဖော်ဆောင်ရွက်ပါက ပြည်တွင်း

တွင် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိလာနိုင်ပြီး ပြည်ပမှ မော်တော်ကားထုတ်လုပ်သည့် နည်းပညာများလည်း ရရှိလာမည်ဟု ယူဆရသဖြင့် သက်ဆိုင်ရာဌာနများ၏ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ယင်းကိစ္စရပ်အပေါ် ကုန်သွယ်မှုရှုထောင့်မှ ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(    )
(စိုးဝင်း၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ရထ-၂/ရန(MIC)/၂၀၁၇( ၆၉၃ )

ရက် စွဲ၊ ၂၀၁၇ ခုနှစ်၊ မတ်လ ၈ ရက်

NPT-1008 / 13.3.17

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M. 399 / 14 3

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ (၁၇) ရက်စွဲပါ စာအမှတ်၊ မရက-၃/မ-၁၄၅၆/၂၀၁၇(၂၆၅)

၁။ အောင်ကမ္ဘာ မော်တာဝန်ဆောင်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ဆားတလင်းကျေးရွာအုပ်စု၊ ကွင်းအမှတ်- (၁၀၈၂-က)၊ ဦးပိုင်အမှတ် (၅၆/၂+၅၇/၂)ရှိ မြေဧရိယာ (၁၈.၆၄)ဧက (၇၅၄၃၃.၄၇ စတုရန်းမီတာ)တွင် မော်တော်ကားတပ်ဆင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာမှုအပေါ် သဘောထားပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်-

(က) မော်တော်ယာဉ်များအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနည်းဥပဒေနှင့်အညီ မြန်မာနိုင်ငံအတွင်း တပ်ဆင်ထုတ်လုပ်ရာတွင် လိုက်နာဆောင်ရွက်ရမည့်သတ်မှတ်ချက်များ-

(၁) ASEAN Motor Vehicle Requirement Standardနှင့် ညီညွတ်ရန်။

(၂) မော်တော်ယာဉ်နည်းဥပဒေများပါမော်တော်ယာဉ်များတည်ဆောက်ခြင်း ပြဋ္ဌာန်းချက်များနှင့် အညီထုတ်လုပ်ရန်။

(၃) ထုတ်လုပ်မည့်မော်တော်ယာဉ်၏ အမျိုးအမည်၊ Model Year အတွက် ပုံစံအတည်ပြုသတ်မှတ်ချက်ရရှိပြီးဖြစ်ရန်၊ ထုတ်လုပ်မည့်မော်တော်ယာဉ်နှင့် ပတ်သက်သည့် Specification များပြည့်စုံစွာဖော်ပြရန်။

(၄) အများပြည်သူဆိုင်ရာလမ်းများပေါ်တွင် အန္တရာယ်ကင်းပြီးလုံခြုံစိတ်ချစွာ မောင်းနှင်အသုံးပြုနိုင်ရေးအတွက် မော်တော်ယာဉ်စမ်းသပ်စစ်ဆေးသည့်

အလုပ်ရုံ(Vehicle Testing Workshop)တွင်ရှိသော Inspection Test Lane ဖြင့် ကြံ့ခိုင်မှုစစ်ဆေးပြီးအောင်မြင်မှသာလျှင် ဈေးကွက်အတွင်းသို့ဖြန့်ဖြူးရောင်းချရန်။

(ခ) မော်တော်ယာဉ်များအားထုတ်လုပ်ချိန်တွင် ကနဦးမှတ်ပုံတင်ပြုလုပ်ပေးနိုင်ရန်အတွက် ကုမ္ပဏီမှ ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာနသို့ အောက်ပါအထောက်အထားများဖြင့် လျှောက်ထားရမည်-

(၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်လုပ်ခွင့်ပြုထားသော Brand Model, Year အလိုက် ထုတ်လုပ်ခွင့်ပြုသည့်အရေအတွက် ဖော်ပြထားသော အထောက်အထား။

(၂) မူရင်းကုမ္ပဏီတည်ရှိသောနိုင်ငံ၏ Authority မှ အဆိုပါယာဉ်ထုတ်လုပ်ခွင့်ပြုသော အထောက်အထား(Type Certificate)။

(၃) မူရင်းကုမ္ပဏီမှ အဆိုပါယာဉ်ထုတ်လုပ်ခွင့်ပြုထားကြောင်း အထောက်အထား။

(၄) ထုတ်လုပ်ပြီးယာဉ်၏ Inspection Certificate တွင် မြန်မာပြည်တွင်းရှိ ထုတ်လုပ်သော ကုမ္ပဏီမှ Quaility Control Engineer နှင့်အတူ မူရင်းကုမ္ပဏီမှ Quaility Control Engineer မှ ပူးတွဲလက်မှတ်ထိုး အတည်ပြုမှု အထောက်အထား။

(၅) ထုတ်လုပ်ပြီးယာဉ်တွင် မူရင်းကုမ္ပဏီ၏ Vehicle Identification Number Plate(Vin Plate)တပ်ဆင်ပေးမှု။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဝင်းခန့်-အမြဲတမ်းအတွင်းဝန်

မိတ္တူ

- ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန

# AUNG GABAR MOTOR SERVICES CO.,LTD

## MIC PROPOSAL

## BAIC BRAND

AUNG GABAR MOTOR
Services Company Limited

သို့

ဥက္ကဋ္ဌ

မြန်မာရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်။

နေ့စွဲ။ ၂၀၁၇ခု ဇူလိုင်လ(၂၇)ရက်

အကြောင်းအရာ။ ။CKD စနစ်ဖြင့်မော်တော်ကားထုတ်လုပ်မှုပြုလုပ်မည့်အစီအစဉ်ရှင်းလင်းတင်ပြခြင်း။

၁။ အထက်ပါအကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ကျွန်တော်များ Aung Gabar Motor Services Co.,Ltd. သည် SKD စနစ်ဖြင့် မော်တော်ကား ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလျှောက်ထားဆဲဖြစ်ပါသည်။

၂။ ထိုသို့ဆောင်ရွက်ရာတွင် ကနဦးကာလရင်းနှီးမြှုပ်နှံမှု ပထမနှစ် မှ တတိယနှစ်အထိ ( Complete SKD ) စနစ်ဖြင့်သာ ဆောင်ရွက်နိုင်မည်ဖြစ်ပြီး စတုတ္ထနှစ် မှ စတင်၍မော်တော်ကားတပ်ဆင်ထုတ်လုပ်မှုတွင် ပါဝင်မည့် (Battery )နှင့် ( Tyre ) အစိတ်အပိုင်းများကို ပြည်ပမှ တင်သွင်းခြင်းအစား ပြည်တွင်းတွင်သာ ဝယ်ယူ အသုံးပြု တပ်ဆင်ထုတ်လုပ်သွားမည်ဖြစ်ပါသည်။

၃။ ထုတ်လုပ်မှု စတင်ပြီး ပဥ္စမနှစ် တွင် မော်တော်ကားထုတ်လုပ်မှု အတွက် လိုအပ်သည့် (Welding Assembly) အတွက် လိုအပ်သော ( Floor Assembly ) ကို ပြည်တွင်းတွင် ထုတ်လုပ်ခြင်း၊ ဆဋ္ဌမနှစ်တွင် (Front & Rear Bumper) ထုတ်လုပ်ခြင်း ၊ သတ္တမနှစ်တွင် (Front & Rear Bumper) ထုတ်လုပ်ခြင်း ၊ အဋ္ဌမနှစ်တွင် ( Door Cover Assembly ) ထုတ်လုပ်ခြင်း ၊ နဝမနှစ်တွင် ( Complete Welding Assembly) ထုတ်လုပ်ခြင်း ၊ ဒသမ နှစ်တွင် ( Electrostatic Coating Complete Painting System ) ထုတ်လုပ်ခြင်း ၊ တို့ကို ပြည်တွင်းတွင် ထုတ်လုပ်ပါမည်

၄။ ကျန်အစိတ်အပိုင်းများကိုသာ ပြည်ပမှ တင်သွင်း ခြင်းဖြင့် တပ်ဆင်ထုတ်လုပ်သွားရန်အစီအစဉ်ရှိကြောင်းတင်ပြအပ်ပါသည်။

၅။ မော်တော်ယာဉ်တစ်စီး၏ ( ၁၀၀ ရာခိုင်နှုန်း) အား (၁၀နှစ်မှ၁၅နှစ်)ခန့်အတွင်း ပြည်တွင်းတွင် ထုတ်လုပ်ရန် ကြိုးစားဆောင်ရွက်ပါမည်ဖြစ်ကြောင်းလည်းတင်ပြအပ်ပါသည်။

၆။ ထုတ်လုပ်မှု စတင်သည့် ပထမနှစ် မှ တစ်ပြိုင်တည်း CKD စနစ်ဆောင်ရွက်သွားရန် မှာ စက်ပစ္စည်းကိရိယာရင်းနှီးမြှုပ်နှံမှု ပမာဏများပြားသဖြင့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဖြင့် ချက်ချင်း ရင်းနှီးဆောင်ရွက်ရန် အခက်အခဲရှိမည်ဖြစ်သည့်အပြင် လုပ်ငန်းအတွေ့အကြုံ၊ ဈေးကွက်အခြေအနေ စသည့်အခက်အခဲများကိုလည်း ထည့်သွင်းစဉ်းစားရပါသောကြောင့်ကျွန်တော်များအနေဖြင့် နှစ်အလိုက် ဖြစ်နိုင်သည့် ပူးတွဲတင်ပြပါမော်တော်ကားအစိတ်အပိုင်းများကို ပြည်တွင်းတွင် ထုတ်လုပ်ဝယ်ယူပြီးSKD စနစ်မှ CKD စနစ်သို့ရောက်ရှိပြောင်းလဲထုတ်လုပ်သွားရန် ရည်ရွယ်စီစဉ်ထားပါကြောင်းရှင်းလင်းတင်ပြအပ်ပါသည်။

<u>ပူးတွဲလျက်။</u>

–Business Plan Photos

လေးစားစွာဖြင့်

U AUNG SEIN
Managing Director
Aung Gabar Motor Services Co., Ltd.

မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်မည့် ရှေ့လုပ်ငန်းစဉ်များအား အောက်ပါအတိုင်း တင်ပြအပ်ပါသည်။

| စဉ် | နှစ် | နှစ်အလိုက် လုပ်ဆောင်မည့်အစီအစဉ် | ထုတ်လုပ်မည့်အပိုပစ္စည်းပုံ | ပြည်တွင်းထုတ် | ပြည်ပသွင်း |
|---|---|---|---|---|---|
| 1<br>2<br>3 | (ပထမနှစ်)<br>(ဒုတိယနှစ်)<br>(တတိယနှစ်) | COMPLETE SKD | | 0% | 100% |
| 4 | (စတုတ္ထနှစ်) | Battery and Tyre ( LOCAL PURCHASE ) |   | 5% | 95% |
| 5 | (ပဉ္စမနှစ်) | CKD Welding Assembly and Painting<br>Floor Assembly |  | 25% | 75% |
| 6 | (ဆဋ္ဌမနှစ်) | CKD Welding Assembly and Painting<br>Assembly<br>Front and Rear Bumper |  | 30% | 70% |
| 7 | (သတ္တမနှစ်) | CKD - Welding and Painting Assembly<br>Side Wall and Roof Assembly |  | 40% | 60% |
| 8 | (အဋ္ဌမနှစ်) | CKD - Door Cover Assembly |  | 50% | 50% |
| 9 | (နဝမနှစ်) | CKD - Complete Welding Assembly |  | 65% | 35% |
| 10 | (ဒသမနှစ်) | Electrostatic Coating Complete Painting System |  | 85% | 15% |
| 11 | အောက်ပါကျန်ရှိသော အခြားParts နှင့် Accessories များကိုပြည်တွင်းတွင် 3rd Parties Parts များထုတ်လုပ်သောစက်ရုံများဖွံ့ဖြိုးလာပါကပြည်တွင်းတွင်အပ်နှံထုတ်လုပ်သွားမည်ဖြစ်သည်။ | | Plastic Body Parts, Electronic Parts ECU, Head Lamp, Break Lamp, Suspension, Dashboard, Interior Trim Parts, Door cover, Wind Screen, Door Glasses, Transmission and Engine ect….about 20% of Parts | | |

မှတ်ချက်။ မော်တော်ယာဉ် တစ်စီး ၏ ( CKD ၁၀၀ ရာခိုင်နှုန်း) ,အား (၁၀မှ၁၅နှစ်)ခန့်အတွင်း ပြည်တွင်းတွင် ထုတ်လုပ်ရန် ကြိုးစားဆောင်ရွက်ပါမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

**AUNG GABAR MOTOR**
**Services Company Limited**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ။ ၂၀၁၇ခု ဇူလိုင်လ(၂၄)ရက်

အကြောင်းအရာ။ ။BAIC ကုန်အမှတ်တံဆိပ်ဖြင့်ထုတ်လုပ်မည့်မော်တော်ကားများ အတွက် ကုန်ကြမ်း တင်သွင်းမည့်နိုင်ငံအားတင်ပြခြင်း။

ကျွန်တော်များ (Aung Gabar Motor Services Co.,Ltd. )သည် BAIC ကုန်အမှတ်တံဆိပ်ဖြင့်ထုတ်လုပ်မည့်မော်တော်ကားများ အတွက် လိုအပ်သော ကုန်ကြမ်းများကို တရုတ်နိုင်ငံ (BAIC International Development Co.,Ltd.) မှ တင်သွင်းမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

U AUNG SEIN
MANAGING DIRECTOR
AUNG GABAR MOTOR SERVICES CO., LTD.

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ။ ၂၀၁၇ခု ဇူလိုင်လ(၂၄)ရက်

အကြောင်းအရာ။ ။(EIA)နှင့်(EMP) အစီရင်ခံစာများနှင့် ပတ်သက်ပြီး တင်ပြခြင်း။

ကျွန်တော်များ (Aung Gabar Motor Services Co.,Ltd. )သည် BAIC ကုန်အမှတ်တံဆိပ်ဖြင့် SKD စနစ်နှင့် မော်တော်ကားများ ထုတ်လုပ်ရန် အတွက် လိုအပ်သော ( EIA ) နှင့် ( EMP ) အစီရင်ခံစာများရေးဆွဲတင်ပြနိုင်ရန် လုပ်ကြီးမင်းများဌာနမှခွင့်ပြုထားသောအဖွဲ့အစည်းများနှင့် ဆက်သွယ်ဆွေးနွေးလျက် ရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

U AUNG SEIN
MANAGING DIRECTOR
AUNG GABAR MOTOR SERVICES CO., LTD

## 3.1 Process scheme of welding assembly

### 3.1.1 Planning principles

- Under the premise of ensuring the quality and production rhythm, achieve the shortest process line and the least process investment as far as possible;
- The level of automation is general, and all are the manual welding lines;
- Tooling equipment should be selected with the mainstream brands in China as first choice, and the key equipment choose the international mainstream brands;
- Welding lines use manual reciprocating lever for transportation, and adjustment lines use trolley + ground rail for transportation;
- The main line to adjustment line use the electric hoist to lift to the trolley;
- Small pieces use manual handling, and large pieces use electric hoist + lifting appliance handling;
- Door cover assembly uses built-in fittings;
- D20 and X25 use co-welding line, X55 uses independent welding line, and the adjustment line uses in common;

### 3.1.2 Production program

| Annual production capacity | Working days per year | Shift times | Working time of single-shift (h) | Equipment movable rate | JPH |
|---|---|---|---|---|---|
| 5000 | 250 | 1 | 8 | / | 2.5 |

Attachment VIIrepair process and the standard of labor time

# Repair Process and the standard of Labor Time

| | | | | | | | |
|---|---|---|---|---|---|---|---|
| Basic information | Vehicle Type | C30D | Order Qty | 96 | | problem qty | |
| | failures Description | | | | | report No.: | |

| S/N | failures name | Part NO. | Photos | Multifunction qty | result (Y/N) | repair technology | Labor Time | remarks |
|---|---|---|---|---|---|---|---|---|
| 1 | | | | | | | | |
| 2 | | | | | | | | |
| 3 | | | | | | | | |
| | | | | | | | | |

| photo |
|---|
| |

| Draft | | Examine | | Approval/date | |
|---|---|---|---|---|---|

# 返修完毕报告
# Repair Finished Report

| 基本信息 Basic Information | 车型 Vehicle Type | C30D | KD产品订单数量 Order Qty | 96 | 发生数量 problem qty | |
|---|---|---|---|---|---|---|
| | 故障简述 failures Description | | | | 信息单编号 report No.: | |

| 序号 | 故障名称 failures name | 零部件编号 Part NO. | 故障数量 Mulfunction qty | 修复说明 repair instructions | 修复工时 Labor Time | 备注 remarks |
|---|---|---|---|---|---|---|
| 1 | | | | | | |
| 2 | | | | | | |
| 3 | | | | | | |
| | | | | | | |

| 修复前后图片the sample pictures for repair before and after | |
|---|---|
| before | after |
| | |

| 编制Draft | | 审核Examine | | 批准/日期Approval/date | |
|---|---|---|---|---|---|

ဦးအောင်စိန်

နှင့်

အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက်

တို့၏

မြေငှားရမ်းခြင်းသဘောတူညီမှုစာချုပ်

( မူကြမ်း )

# မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)

ဤမြေငှားသဘောတူစာချုပ်ကို ၂၀၁၆ ခုနှစ်၊ လ၊ ရက်နေ့တွင် မြန်မာနိုင်ငံသားများဖြစ်သူ အမှတ်၄၀(အေ)၊ ဖိုးစိန်လမ်း၊ နတ်မောက်ရပ်ကွက်၊ တာမွေမြို့နယ်နေထိုင်သူ ဦးအောင်စိန် (နိုင်ငံသားမှတ်ပုံတင်အမှတ်၉/မရမ (နိုင်)၀ရ၈၃၂၄ )(ဤမှနောင်တွင် "အငှားချထားသူ" ဟုခေါ်ဆိုစေရမည်၊ ယင်းစကားရပ်တွင်စာသားအရသော်လည်းကောင်း၊ ရှေ့နောက်ကွဲလွဲခြင်းမရှိပါက ၎င်းတို့၏ကိုယ်စားလှယ်များ၊ ဆက်ခံသူများ နှင့်ဥပဒေအရခွင့်ပြုထားသည့်လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟုမှတ်ယူရမည် ) တို့က တစ်ဖက်

နှင့်

အမှတ် ၅၄၊ (၁)လမ်း၊ ( ၈ ) ရပ်ကွက်၊ တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့ တွင် ကုမ္ပဏီ၏မှတ်ပုံတင်ရုံးတည်ရှိသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်တည်ဆဲဥပဒေများအရ မှတ်ပုံတင်ဖွဲ့စည်းထားသည့်ကုမ္ပဏီလီမိတက်တစ်ခုဖြစ်သည့် အောင်ကမ္ဘာမော်တာဝန်ဆောင်မှု ကုမ္ပဏီလီမိတက် ( နောင်တွင် "အငှားချထားခြင်းခံရသူ" ဟု ခေါ်ဆိုစေရမည်၊ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ ရှေ့နောက်ကွဲလွဲခြင်းမရှိပါက ၎င်းတို့၏ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ဥပဒေအရခွင့်ပြုထားသည့်လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟုမှတ်ယူရမည်)ကို ကိုယ်စားပြုသူအဖြစ် ဒါရိုက်တာဦးမြင့်သိန်း ( နိုင်ငံသားမှတ်ပုံတင်အမှတ် ၉/မရမ (နိုင်)၀ရ၉၄၃၉ ) မှ အခြားတစ်ဖက်တို့သည် အောက်ပါအတိုင်း မြေငှားရမ်းခြင်း သဘောတူစာချုပ် ကိုချုပ်ဆိုကြသည်။

## ၁။ ရည်ရွယ်ချက်

ဤသဘောတူစာချုပ်သည် "အငှားချထားသူ" အား ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ မြေအသုံးချခွင့်ပြုထားသော ဦးပိုင်မြေကွက်အမှတ် ၅၆/၂၃၊ ဆားတလင်းကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ မြောက်ပိုင်းခရိုင်ရန်ကုန်တိုင်းဒေသကြီး တွင်တည်ရှိသည် စုစုပေါင်းမြေဧရိယာ( ၄.၈၈ )ဧက / ၁၉၇၄၈.၆ စတုရန်းမီတာ ကျယ်ဝန်းသောမြေကွက် ကို "အငှားချထားခြင်းခံရသူ"သည် မော်တော်ကားတပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်းကိုရင်းနှီးမြှုပ်နှံမှုဆောင်ရွက်နိုင်ရန်အလို့ငှာ နှစ်ရှည်ငှားရမ်းခြင်းဖြစ်ပါသည်။

ဤမြေသည် "အငှားချထားသူ" မှလက်ဝယ်ရှိပြီး၊ တရားဝင်ပိုင်ဆိုင်မှုရှိကြောင်း တာဝန်ယူအာမခံပါသည်။ သို့ဖြစ်၍မြေငှားရမ်းခြင်းနှင့်ပတ်သက်၍ အောက်ပါသဘောတူညီမှုများကို နှစ်ဦးနှစ်ဖက်ပြုလုပ်ကြပါသည်။

## ၂။ ကိုယ်စားပြုခြင်းနှင့်အာမခံချက်

၂-၁ "အငှားချထားသူ" သည် နောက်ဆက်တွဲအဖြစ်ဖော်ပြထားသော အငှားချထားသည့်မြေကွက်ကိုဥပဒေနှင့်အညီ တရားဝင်အမည်ပေါက်ပိုင်ဆိုင်ခွင့်ရှိသူ ဖြစ်ကြောင်းအာမခံသည်။ "အငှားချထားသူ"သည်အငှားချထားသည့်မြေကွက်ကိုအောက်ပါ စည်းကမ်းချက်များနှင့်အညီ "အငှားချထားခြင်းခံရသူ" အား အငှားချထားရန်သဘောတူသည်။ "အငှားချထားခြင်းခံရသူ" သည်ဤစာချုပ်ကိုအကောင်အထည်ဖော်ရန်အတွက်သက်ဆိုင်သောဥပဒေများနှင့်အညီ တရားဝင်ဖွဲ့စည်းတည်ထောင်ထားပြီးလျှင် ဥပဒေအရလုပ်ပိုင်ခွင့်အခွင့်အာဏာနှင့် စီးပွားရေးအရခိုင်မာတောင့်တင်းမှု ရှိသောသူများ ဖြစ်ကြောင်းအာမခံသည်။

## ၃။ ငှားရမ်းမည့်အချိန်ကာလ

၃-၁ ငှားရမ်းမည့်အချိန်ကာလ မှာ ဤသဘောတူစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစပြီး ကနဦး နှစ်(၃၀)ကာလအထိ ဖြစ်ပါသည်။ ယင်းကာလကုန်ဆုံးသောအခါ နောက်ထပ်ငှားရမ်းသက်တမ်းကို ၅(ငါး)နှစ်စီ ၂(နှစ်)ကြိမ်သက်တမ်းတိုးမြှင့် ငှားရမ်းအသုံးပြုရန်ဖြစ်သည်။

၃-၂ စုစုပေါင်းသက်တမ်း (၄၀)နှစ်ကုန်ဆုံးပြီးနောက် နှစ်ဦးနှစ်ဘက် ညှိနှိုင်း၍ယင်းသဘောတူညီမှုအရ ဆက်လက်တိုးမြှင့် ငှားရမ်းမည်ဖြစ်သည်။ ထိုသို့တိုးမြှင့်ငှားရမ်းခြင်းနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိပြီးမှသာလျှင် အတည်ဖြစ်စေရမည်။ ငှားရမ်းခြင်းသက်တမ်းကို ငှားရမ်းခြင်းစတင်သည့်နေ့မှစ တင်ရေတွက်မည်ဖြစ်သည်။ငှားရမ်းခြင်းစတင်သည့်နေ့မှာဤသဘောတူစာချုပ်လက်မှတ်ရေးထိုးသောနေ့ဖြစ်သည်။

## ၄။ ငှားရမ်းခ

၄-၁ ဤမြေငှားရမ်းခြင်း သဘောတူစာချုပ် ချုပ်ဆိုသည့်နေ့မှ စတင်၍ "အငှားချထားခြင်းခံရသူ" သည် အငှားချထားသည့်မြေကွက်အတွက် ငှားရမ်းခ အဖြစ် တစ်လလျှင် ကျပ် ၁၀၀၀၀၀၀၀/(ကျပ်တစ်ဆယ်သိန်းတိတိ) နှုန်းဖြင့် တစ်(၁)နှစ်အတွက်ကျသင့်ငွေကျပ် ၁၂၀၀၀၀၀၀/(ကျပ်သိန်းတစ်ရာနှစ်ဆယ်တိတိ)ကိုပေးချေရာတွင် တစ်နှစ်စာရင်းပိတ်သည့်အထိစောင့်ဆိုင်းခြင်းမပြုဘဲ ပထမနှစ်အတွင်းပထမလ၏ဒုတိယရက်သတ္တပတ်အတွင်း ကြိုတင်၍ ငှားရမ်းခကို "အငှားချထားခြင်းခံရသူ" မှ "အငှားချထားသူ" အား အပြေအလည်ပေးချေရန် သဘောတူညီကြပါသည်။

၄-၂ ဤမြေငှားရမ်းခြင်း သဘောတူစာချုပ်ဝင်ပုဂ္ဂိုလ်များသည် ငှားရမ်းခြင်းကာလ(၅)နှစ်ပြည့်မြောက်သည့်အခါတိုင်း ပြီးခဲ့သောကာလ၏ ငှားရမ်းခနှုန်းထားများအပေါ် ( ၁၀ ) ရာခိုင်နှုန်းထက်မပိုစေဘဲ ပြန်လည်ညှိနှိုင်းတိုးမြှင့်သတ်မှတ်ပိုင်ခွင့်ရှိစေရမည်။

## ၅။ အငှားချထားခြင်းခံရသူ၏တာဝန်များ

၅-၁ အငှားချထားခြင်းခံရသူသည် အငှားချထားသူနှင့် ရှင်းလင်းစွာပြုလုပ်ထားသောဆောင်ရွက်ပေးရန်တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်သည်။

(က) အငှားချထားခြင်းခံရသူသည် ငှားရမ်းသည့်ကာလများအတွက် ငှားရမ်းခများကို သတ်မှတ်သဘောတူထားသောနေ့ရက်တွင် ပေးရမည့်အပြင် မြေခွန်မှအပ လုပ်ငန်းဆောင်ရွက်မှုနှင့်သက်ဆိုင်သည့်သက်ဆိုင်ရာ အာဏာပိုင်များသို့ပေးဆောင်ရမည့်အခွန်အရပ်ရပ်နှင့်ဤမြေငှားရမ်းခြင်းသဘောတူစာချုပ်ချုပ်ဆိုခြင်းအတွက်ကျသင့်သောတံဆိပ်ခေါင်းခွန်ကိုလည်း ပေးဆောင်ရမည်၊

(ခ) အငှားချထားသောမြေနေရာကိုကားလုပ်ငန်းဆောင်ရွက်ရန်အတွက်သာငှားရမ်းခြင်းဖြစ်ပြီး ကားစက်ရုံ အရောင်းပြခန်း၊ ကားဆားဗစ်စင်တာဖွင့်လှစ်ခြင်းမှအပ အငှားချထားသသည့်မြေအားလုံးကိုသော်လည်းကောင်း၊တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း အငှားချထားသူ၏စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိဘဲ ထပ်ဆင့်ငှားရမ်းခြင်း၊ လက်လွှဲပြောင်းခြင်း၊ ခွဲစိတ်ရောင်းချခြင်းစသည့် တို့ကိုလုံးဝဆောင်ရွက်ခြင်းမပြုလုပ်ရ။

(ဂ) ငှားရမ်းသည့်မြေကွက်အတွင်း ကားလုပ်ငန်းဆောင်ရွက်ခြင်းမှ လျှပ်စစ်မီးအလွန်အကျွံသုံးစွဲမှုကြောင့် မီတာလောင်ကျွမ်းခြင်း၊ ဝါယာရှော့ဖြစ်ခြင်း အပါအဝင် မည်သည့်ပြဿနာတစ်စုံတစ်ရာပေါ်ပေါက်ခဲ့လျှင်ဖြစ်စေ၊ အငှားချထားခြင်းခံရသူနှင့်တကွ ပတ်သက်ဆက်နွယ်သူတို့၏ပေါ့ဆမှုကြောင့်မီးလောင်ကျွမ်းမှုဖြစ်စေ၊ အဆိုပါမည်သည့်ပြဿနာများအားလုံးကို အငှားချထားသူနှင့် လုံးဝပတ်သက်မှုမရှိစေရန်အငှားစေရန် အငှားချထားခြင်းခံရသူမှ တာဝန်ယူရမည်ဖြစ်ပြီး ပြဿနာများပြေလည်သည်အထိ သက်ဆိုင်ရာအစိုးရဌာနများတွင် အငှားချထားခြင်းခံရသူမှ အလုံးစုံတာဝန်ယူဖြေရှင်းဆောင်ရွက်ပေးရန် နှင့်ထိုသို့မီးလောင်ကျွမ်းမှုကြောင့် အငှားချထားသူတွင်နစ်နာမှုများရှိပါက အငှားချထားသူကျေနပ်သည်အထိဆောင်ရွက်ပေးရန်၊ အငှားချထားခြင်းခံရသူအနေဖြင့်ဖြစ်ပေါ်လာသောပြဿနာများဒဏ်ရာအနာတရများနှင့်ခိုက်ရာဖြစ်ပွားမှုအရပ်ရပ်ကိုကျေလည်သည်အထိဆောင်ရွက်ပေးမည်ဖြစ်ကြောင်းသဘောတူပါသည်။

(ဃ) ငှားရမ်းကာလမကုန်ဆုံးမီ အငှားခံထားခြင်း၊ ရပ်စဲရန်ဖြစ်စေ၊ တိုးမြင့်ရန်ဖြစ်စေ ပြုလုပ်လိုပါက (၃)လကြိုတင်၍ တစ်ဘက်သို့စာဖြင့် အကြောင်းကြားရမည်။

(င) အငှားချထားသည့်မြေကွက်ပေါ်တွင် တည်ဆဲဥပဒေအရ လုပ်ကိုင်ခွင့်ပြုထားသောလုပ်ငန်းများကို သာလုပ်ကိုင်ဆောင်ရွက်ရမည်။ ငှားရမ်းသည့်ကာလများအတွင်း အငှားချထားသောမြေနေရာကိုကောင်းမွန်စွာထိမ်းသိမ်းရမည် ဖြစ်ပြီး၊ ငှားရမ်းသည့်ကာလကုန်ဆုံးသောအခါတွင်ဖြစ်စေ၊ သို့မဟုတ် ထပ်မံတိုးချဲ့ငှားရမ်းခြင်းမပြုလုပ်သောအခါတွင်ဖြစ်စေ ၄င်းမြေနှင့်အဆောက်အဦးနေရာကို ကောင်းမွန်သောအနေအထားဖြင့်အငှားချထားသူထံသို့ အဖိုးအစားအနားမပါရှိဘဲ ပြန်လည်လွှဲပြောင်းပေးရမည်။

(စ) အငှားချထားသောမြေနေရာတွင် လုပ်ငန်းများဆောင်ရွက် အကောင်အထည်ဖော်ရာ၌ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏တရားဝင်တည်ဆဲဥပဒေများနှင့်အညီကိုက်ညီမှုရှိအောင်ဆောင်ရွက်ရမည်။

(ဆ) ဤသဘောတူစာချုပ်ကို စာချုပ်စာတမ်းများမှတ်ပုံတင်အက်ဥပဒေအရမှတ်ပုံတင်ရမည်။ဤသဘောတူစာချုပ်ကိုမှတ်ပုံတင်ခြင်းဖြင့်ပေးဆောင်ရမည့် တံဆိပ်ခေါင်းခွန်နှင့်စည်ပင်သာယာခွန်အပါအဝင်ဖြစ်သောအခြားအလားတူလုပ်ငန်းသဘောအရ ပေးဆောင်ရန်ရှိသောအခွန်အကောက်များကို ပေးဆောင်ရမည်။

(ဇ) အငှားချထားသောမြေပေါ်ရှိ အဆောက်အအုံများနှင့် လုပ်ငန်းအတွက် လိုအပ်သောအာမခံများကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် မြန်မာ့အာမခံဥပဒေများနှင့်အညီထားရှိမည်။

(ဈ) အငှားချထားခြင်းခံရသူသည် မိမိလုပ်ငန်းမှစွန့်ပစ်ပစ္စည်းကြောင့် ပတ်ဝန်းကျင်ရှိမြေနေရာ၊ ရေ နှင့်လေထုညစ်ညမ်းမှုများမှ ကာကွယ်ရေးအတွက် တာဝန်ယူပါသည်။

၆။ **အငှားချထားသူ၏တာဝန်များ**

၆-၁ အငှားချထားသူသည် အငှားချထားခြင်းခံရသူအားဆောင်ရွက်ပေးရန်တာဝန်မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) အငှားချထားသူ သည် အငှားချထားသည့်မြေ၏အကျိုးခံစားခွင့် အရပ်ရပ်ကို အငှားချထားခြင်းခံရသူ ထံသို့ ဤမြေငှားသဘောတူစာချုပ် အကျိုးသက်ရောက်သည့်နေ့မှစ၍ လွှဲပြောင်းပေးရမည်။

(ခ) အငှားချထားသူ သည် အငှားချထားသည့်မြေအား အငှားချထားခြင်းခံရသူမှ နိုင်ငံခြား သို့မဟုတ် နိုင်ငံခြားကုမ္ပဏီသို့ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်အတွက်ငှားရမ်းရန် ကြိုတင်ခွင့်ပြုချက်တောင်းခံ လာပါက အငှားချထားခြင်းခံရသူ အားခွင့်ပြုပေးရမည်။

(ဂ) အငှားချထားသူသည် အငှားချထားသောမြေနှင့်စပ်လျဉ်း၍ပေးဆောင်ရန်ရှိသော မြေခွန်အပါအဝင် အခွန်အခအရပ်ရပ်ကိုပေးဆောင်ရမည်။

(ဃ) အငှားချထားခြင်းခံရသူ မှ အဆိုပါမြေကွက်အတွင်း မလိုအပ်သောအပင်များကို အငှားချထားခြင်း ခံရသူ မှ စရိတ်ကျခံပြီးခုတ်ရန်အတွက် ခွင့်ပြုပေးရမည်။

(င) အငှားချထားစဉ်ကာလအတွင်း မည်သည့်အကြောင်းပြချက်များဖြင့် ငှားရမ်းခြင်းကို ဖြတ်တောက်ခြင်း မပြုရ၊ အငှားချထားခြင်းခံရသူအနေဖြင့် ငှားရမ်းခများကို ပေးဆောင်နေသည့်ငှားရမ်းကာလအတွင်း အငှားချထားသောမြေနှင့် အကျုံးဝင်သည့်အရာများကို ငြိမ်းချမ်းစွာ၊ အေးဆေးစွာနှင့် အနှောက်အယှက် ကင်းစွာတို့ဖြင့် အသုံးပြုဆောင်ရွက်ပိုင်ခွင့်ရှိစေရမည်ဖြစ်ပြီး၊ ငှားရမ်းသည့်ကာလအတွင်း အငှားချထားသူ ၏ သဘောဆန္ဒအရ သို့မဟုတ် တစ်ဦးဦး၏ဝင်ရောက်တောင်းဆိုမှုအရ သို့မဟုတ်အငှားချထားသူ၏ယုံ ကြည်အပ်နှံသူတို့မှ ပါဝင်ပတ်သက်မှုများဖြင့် ဝင်ရောက်နှောက်ယှက်ခြင်းမရှိစေရ။ အငှားချထားခြင်း ခံရသူမှလည်း(၃)နှစ်အတွင်း မငှားလိုပါက အငှားချထားသူ၏ နစ်နာဆုံးရှုံးမှုများအားဖြေရှင်းပေးရမည်။

၇။ မလွှဲမရှောင်နိုင်သည့်ဖြစ်ရပ်များ

၇-၁ မလွန်ဆန်နိုင်သည့် သဘာဝဘေးအန္တရာယ်များဖြစ်သည့် ရေကြီးခြင်း၊ မီးလောင်ခြင်း၊ လေမုန်တိုင်းကျ ရောက်ခြင်း၊ စစ်မက်ဖြစ်ပွားခြင်း၊ မြေငလျင်တုန်လှုပ်ခြင်းနှင့် အလားတူထိန်းချုပ်၍မရနိုင်သည့် ဖြစ်ရပ်များ သို့မဟုတ် မည်သည့်ဖက်မျှ ကြိုးစားအားထုတ်ဆောင်ရွက်မှုဖြင့် တားဆီးမရနိုင်သောဖြစ်ရပ်များကြောင့် တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များကို ထမ်းဆောင်ရန်ပျက်ကွက်ပါက အဆိုပါမလွှဲမရှောင်နိုင်သည့်ဖြစ်ရပ်များ ပေါ်ပေါက် ကြောင်းကို ဖြစ်ပေါ်သည့်အချိန်မှ (၁၄)ရက်အတွင်း အခြားတစ်ဖက်သို့ စာဖြင့်အကြောင်း ကြားရမည်။ အခြား တစ်ဖက် ကလည်း မလွန်ဆန်နိုင်သည့်ဖြစ်ရပ် ပေါ်ပေါက်ကြောင်းလက်ခံပါက စာချုပ် ချုပ်ဆိုသူနှစ်ဦး နှစ်ဖက် စလုံးတွင်မည်သည့်တာဝန်မျှမရှိစေရ။ မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များပေါ်ပေါက် သည့်ကာလကို စာချုပ်သက်တမ်း ကာလမှ ထုတ်နှုတ်ရန် သဘောတူကြပါသည်။

၈။ သဘောတူစာချုပ်စတင်အကျိုးသက်ရောက်သောနေ့

၈-၁ ဤသဘောတူစာချုပ်သည် အငှားချထားသူနှင့်အငှားချထားခြင်းခံရသူတို့ နှစ်ဦးနှစ်ဘက် မြေငှားသဘော တူစာချုပ်ကို လက်မှတ်ရေးထိုးသဘောတူညီသည့်နေ့မှ စတင်၍အကျိုးသက်ရောက်မှုရှိစေရမည်ဖြစ်သည်။

၉။ စာချုပ်ရပ်စဲခြင်း

၉-၁ ဤသဘောတူစာချုပ်ကို အောက်ပါအခြေအနေတစ်ရပ်ရပ် ပေါ်ပေါက်လာပါက ရပ်စဲခြင်း ပြုလုပ်နိုင်သည်။

(က) လုပ်ငန်းတွင် ကြီးမားစွာ ဆက်တိုက်အရှုံးပေါ်ပေါက်နေခြင်း၊

(ခ) မြေငှားသဘောတူစာချုပ်ဝင် တဖက်ဖက်မှ စာချုပ်ပါ တာဝန်များဆောင်ရွက်ရန် ပျက်ကွက်ခြင်း၊

(ဂ) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုလုပ်နိုင်သော မလွှဲမရှောင်နိုင်သည့်ဖြစ်ရပ်များ (၆)လထက်ပိုမိုဖြစ်ပေါ်လာခြင်း၊

(ဃ) သဘောတူစာချုပ်၏ မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်းမရှိခြင်း၊

၉-၂ သို့သော်ငြားခည်း အငှားချထားခြင်းခံသူသည် ၎င်း၏လုပ်ငန်းများ ဆက်လက်ဆောင်ရွက်နိုင်ရန်နှင့် ပြန်လည် တည်ထောင်မှုပြုလုပ်နိုင်ရန်အတွက် ဤသဘောတူစာချုပ်ပါ ၎င်း၏အခွင့်အရေးများကို ခွင်းချက်အဖြစ် သက် သာခွင့်ရရှိစေနိုင်သည်။ ဤသဘောတူစာချုပ်တွင်ပါရှိသော ပြဋ္ဌာန်းသတ်မှတ်ချက်များနှင့်အညီ နှစ်ဦး နှစ်ဖက် တို့သည် ဤသဘောတူစာချုပ်ကို ရပ်စဲလိုပါက ရပ်စဲလိုကြောင်း အကြောင်းကြားစာ ကို အခြားတစ်ဖက်ထံသို့ (၃)လ ကြိုတင်၍ ပေးပို့အသိပေးရမည်။

၉-၃ ဤကဲ့သို့ မြေငှားသဘောတူစာချုပ်ရပ်စဲရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ သဘောတူ အတည်ပြု ချက်ရရှိပြီးမှသာလျှင် စာချုပ်ရပ်စဲနိုင်ခွင့်ရှိသည်။

၁၀။ အနုညာတစီရင်ဆုံးဖြတ်ခြင်း

၁၀-၁ အကယ်၍ ဤမြေငှားသဘောတူစာချုပ်ပါ အချက်အလက်များနှင့်ပတ်သက်ပြီး၊ အကောင်အထည်ဖော် ဆောင်ရွက်ရာတွင်ဖြစ်စေ၊ အဓိပ္ပါယ်လွဲမှားမှုကြောင့်ဖြစ်စေ၊ အငြင်းပွားမှုများဖြစ်ပေါ်လာပါက သဘောတူ စချုပ်တွင် လက်မှတ်ရေးထိုးထားသည့် နှစ်ဦးနှစ်ဖက်စလုံးမှ ညှိနှိုင်းဆွေးနွေးခြင်းဖြင့် အငြင်းပွားမှုများကို ပြေလည်ငြိမ်းအေးစေနိုင်သည်။ နှစ်ဦးနှစ်ဖက်အကျေအလည်ညှိနှိုင်းဆွေးနွေး၍ မရရှိခဲ့ပါက မြန်မာနိုင်ငံ အတွင်း၌ နှစ်ဦးနှစ်ဖက်အတွက် ခုံသမာဓိလူကြီးတစ်ဦးစီ ရွေးချယ်ခန့်ထားပြီး ညှိနှိုင်းဆွေးနွေးနိုင်ခွင့် ရှိသည်။ နှစ်ဦးနှစ်ဖက်မှ ခန့်အပ်ထားသော ခုံသမာဓိလူကြီးများမှ အငြင်းပွားမှုများကို ပြေလည်အောင် ဖြေရှင်း ပေးနိုင်ခြင်းမရှိခဲ့ပါက အဆိုပါခုံသမာဓိလူကြီးများသဘောတူသော ခုံသမာဓိလူကြီး၏ အဆုံးအဖြတ်ကို နှစ်ဖက် စလုံးမှလက်ခံကြရမည်။ ၎င်းခုံသမာဓိလူကြီး၏ အဆုံးအဖြတ်သည် အပြီးသတ်ဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များအပေါ်အတည်

ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းမှာ ၂၀၁၆ ခုနှစ်၊ မြန်မာနိုင်ငံအနုညာတ ဥပဒေနှင့် နောက်ပိုင်းပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ ခုံသမာဓိ အဖွဲ့၏ ဖြေရှင်းဆုံးဖြတ်ရန် နေရာမှာ ရန်ကုန်မြို့၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင်သာ ဖြစ်ရပါမည်။ ခုံသမာဓိရုံး၏ ကုန်ကျစရိတ်များကို အမှုရှုံးသည့်ဖက်မှ ကျခံပေးဆောင်ရမည်။

၁၁။ လွှမ်းမိုးသောဥပဒေ

၁၁-၁ ဤသဘောတူစာချုပ်ကိုပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ဥပဒေများနှင့်အညီအကောင်အထည်ဖော်ဆောင်ရွက်ရမည်။ ဤစာချုပ်ကို လွှမ်းမိုးသောဥပဒေသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏တည်ဆဲဥပဒေများဖြစ်သည်။ ဤစာချုပ်ပါနှစ်ဦး နှစ်ဖက်စလုံးသည် စီရင်ပိုင်ခွင့်ရှိသော သက်ဆိုင်ရာမြန်မာတရားရုံးနှင့် အယူခံမှုများကို ကြားနာနိုင်သော တရားရုံးအားလုံး၏ စီရင် ပိုင်ခွင့်ကိုလက်ခံကြပါသည်။

၁၂။ ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ

၁၂-၁ ဤသဘောတူစာချုပ်တွင်ပါဝင်သော လုပ်ငန်းဆောင်ရွက်ချက်များကို အကောင်အထည်ဖော် ဆောင်ရွက်မှုများအတွက် သက်ဆိုင်ရာအစိုးရဌာနအဖွဲ့အစည်းများ၏ ခွင့်ပြုသဘောတူညီချက်ရရှိပြီးမှသာလျှင် ဆောင်ရွက် နိုင်ခွင့်ရှိကြမည်ဖြစ်သည်။

၁၃။ စာချုပ်အားဖြင့်ပြန်လည်ပြင်ဆင်စေ့စပ်ညှိနှိုင်းခြင်း

၁၃-၁ ဤသဘောတူစာချုပ်၌ ကြိုတင်မမျှော်မှန်းနိုင်သော အခြေအနေတစ်ခုခုပေါ်ပေါက်လာသဖြင့် စာချုပ်ပါ အချက်အလက်များကို ဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်သောအခါတွင် နှစ်ဦးနှစ်ဖက်မှစေ့စပ်ညှိနှိုင်းပြီး စာချုပ်ပါ အချက်များကို လိုအပ်သလိုပြင်ဆင်ခွင့် ရှိစေရမည်ဖြစ်သည်။ ဤကဲ့သို့ပြင်ဆင်ရာတွင် မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီအတည်ပြုချက် ရရှိပြီးမှသာလျှင် အတည်ဖြစ်မည် ဖြစ်သည်။

၁၅။ ဘာသာစကား

၁၅-၁ ဤမြေငှားသဘောတူစာချုပ်ကို ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ မြန်မာဘာသာဖြင့် စာချုပ်သုံးစောင်ရေးသားပြီးလျှင် စာချုပ်နှစ်စုံကို နှစ်ဦးနှစ်ဖက်မှ တစ်စုံစီရယူထားပြီး၊ ကျန်သော စာချုပ်တစ်စုံကို သက်ဆိုင်ရာအာဏာပိုင်အဖွဲ့အစည်းထံသို့ ပေးပို့၍စစ်ဆေးခြင်းနှင့် အတည် ပြုချက်များ ရယူနိုင် ရန် ပေးပို့ရမည်။

၁၆။ အကြောင်းကြားစာ

၁၆-၁ ဤသဘောတူစာချုပ်နှင့်ပတ်သက်၍ အကြောင်းကြားစာနှင့် အခြားဆက်သွယ်မှုများအား အောက်ဖော်ပြပါ လိပ်စာများအတိုင်း မြန်မာဘာသာဖြင့်ရေးသားပြီးလျှင် စာတိုက်မှမှတ်ပုံတင်ချောစာဖြင့်ဖြစ်စေ သို့မဟုတ် တဲလက်စ်

ဖြင့်ဖြစ်စေ၊ ဖက်စ်ဖြင့်ဖြစ်စေ နှစ်ဦးနှစ်ဖက်ဆက်သွယ်ပေးပို့ရမည်။ ထိုသို့ဆက်သွယ်ပေးပို့ရာတွင် သဘောတူစာချုပ်ချုပ်ဆိုစဉ်က လိပ်စာအတိုင်းသော်လည်းကောင်း၊ တစ်ဖက်မှအကြောင်းကြားလာသည့် အခြား လိပ်စာဖြင့်သော်လည်းကောင်း ဆက်သွယ်ပေးပို့ရမည်။ လိပ်စာများမှာ-

(က) "အငှားချထားသူ" (၁)အမည် - ဦးအောင်စိန် ( ၉/မရမ(နိုင်) ၀၈၈၇၂၄
(၂)လိပ်စာ - အမှတ် ( ၄၀/အေ)၊ ဖိုးစိန်လမ်း၊ နတ်မောက်ရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့
(၃)ဖုန်းအမှတ် -
(၄)ဖက်စ်နံပါတ် -
(၅)တဲလက်နံပါတ် -

(ခ) "အငှားချထားခြင်းခံရသူ" (၁)အမည် - အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက်
(၂)လိပ်စာ - အမှတ် ၅၄၊ (၁)လမ်း၊ (၈)ရပ်ကွက်၊
- တောင်ဥက္ကလာပမြို့နယ်၊ရန်ကုန်မြို့
(၃)ဖုန်းအမှတ် -
(၄)ဖက်စ်နံပါတ် -
(၅)တဲလက်နံပါတ် -

၁၆-၂ ယခုကဲ့သို့စာရွက်စာတမ်းများ ပေးပို့ဆက်သွယ်သည့်အခါတွင် ပေးပို့ခြင်းကိုလက်ခံရယူသည့်ဖက်မှ လက်ခံရရှိပြီးဖြစ်ကြောင်းအကြောင်းပြန်ကြားစာရရှိပြီးမှသာလျှင်ပေးပို့ခြင်းကိစ္စပြီးမြောက်ပြီးဖြစ်သည်ဟုအတည်ပြုနိုင်သည် အကယ်၍တစ်ဖက်ဖက်မှ လိပ်စာအပြောင်းအလဲရှိပါက စာဖြင့်ရေးသားပြီး အကြောင်းကြားစာကို ပေးပို့ရမည်။

၁၇။ အငှားချထားသောမြေပုံ

၁၇-၁ ဤမြေငှားသဘောတူစာချုပ်အရအငှားချထားမည့် ဦးပိုင်မြေကွက်အမှတ် ၅၆/၂၃၊ ဆားတလင်းကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်မြို့တွင်တည်ရှိ သောအငှားချထားသူပိုင် ( ၇.၈၈ ) ကေကျယ်ဝန်းသောမြေနေရာပြပုံကို နောက်ဆက်တွဲ(က-၁)၌တွင် ပူးတွဲဖော်ပြ ထားပါသည်။

၁၈။ တွင်းထွက်ပစ္စည်းများနှင့်သယံဇာတပစ္စည်းများ

၁၈-၁ ဤမြေငှားသဘောတူစာချုပ်အရ ငှားရမ်းမှုပြုလုပ်ထားသော မြေနေရာတွင် မည်သည့်အချိန်တွင်မဆို ထွက်ပေါ်ရရှိလာသော ဓါတ်သတ္တုများ၊သဘာဝတွင်းထွက်သယံဇာတပစ္စည်းများ၊ ကျောက်မျက်ရတနာများ၊ ကြေးနီ၊ ရေနံနှင့်အခြားသောတူးဖော်ရရှိလာမည့် သဘာဝအရင်းမြစ်များအားလုံးသည် ပြည်ထောင်စုမြန်မာ နိုင်ငံတော်အစိုးရနှင့်သာ သက်ဆိုင်စေရမည်ဖြစ်ပြီး အငှားချထားသူအနေဖြင့် သက်ဆိုင်ရာအစိုးရဌာနသို့ အကြောင်းကြားတင်ပြပေးရမည်ဖြစ်သည်။

၁၉။ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

၁၉-၁ "အငှားချထားခြင်းခံရသူ" သည် အဆောက်အအုံများနှင့် ၄င်းတို့၏ပတ်ဝန်းကျင်တစ်ဝိုက်တွင် ဘေးအန္တရာယ်ကျရောက်မှုနှင့် ညစ်ညမ်းမှုများတို့မှ ကာကွယ်ရန်လိုအပ်သောကြိုတင်ပြင်ဆင်မှုများကို ဆောင်ရွက်ပေးရမည်။ ၄င်းတို့၏အစိတ်အပိုင်း အပေါ်တွင် ဆောင်ရွက်မည့် လုပ်ဆောင်မှုများနှင့် လုပ်ငန်းဆောင်ရွက်မှုကြောင့် ပေါ်ပေါက်လာမည့် မည်သည့်လျော်ကြေး တောင်းဆိုမှုမျိုးမဆိုအငှားချထားသူ အပေါ်တွင်တာဝန်မရှိစေရ။ "အငှားချထားခြင်းခံရသူ"ကသာကျခံပေးချေရမည်။

၂၀။ အထွေထွေ

၂၀-၁ ဤသဘောတူစာချုပ်တွင် ဖော်ပြပါရှိသော အချက်အလက်များသည် သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့ စည်းမျဉ်းတွင် ပြဋ္ဌာန်းထားသောအချက်အလက်များနှင့် အဓိပ္ပါယ်ကွဲလွဲခြင်း၊ ရှေ့နောက်မညီမညွတ်ဖြစ်နေခြင်း များဖြစ်ပေါ် လာပါက မြေငှားသဘောတူစာချုပ်တွင် ပြဋ္ဌာန်းထားသောအချက်အလက်များကိုသာ အတည်ဖြစ်သည်ဟု မှတ်ယူစေရမည်ဖြစ်သည်။

ဤသဘောတူစာချုပ်ကို အထက်ဖော်ပြပါ-------------------- ခုနှစ်၊ ---------------------လ နှင့် --------------------- နေ့ရက်တွင် နှစ်ဦးနှစ်ဖက်မှ တရားဝင်ကိုယ်စားလှယ်များမှ တံဆိပ်ရိုက်နှိပ်ပြီး၊ လက်မှတ်ရေးထိုး သဘောတူညီကြပါသည်။

| အငှားချထားသူ | အငှားချထားခြင်းခံရသူ |
|---|---|
| ဦးအောင်စိန် | အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက် |
| တို့ကိုယ်စားလက်မှတ်ရေးထိုးသူ | ကိုယ်စားလက်မှတ်ရေးထိုးသူ |

| | | | |
|---|---|---|---|
| လက်မှတ် | : -------------------------- | လက်မှတ် | : -------------------------- |
| အမည် | : -------------------------- | အမည် | : -------------------------- |
| လိပ်စာ | : -------------------------- | လိပ်စာ | : -------------------------- |

| အသိသက်သေ | အသိသက်သေ |
|---|---|

| | | | |
|---|---|---|---|
| လက်မှတ် | : -------------------------- | လက်မှတ် | : -------------------------- |
| အမည် | : -------------------------- | အမည် | : -------------------------- |
| လိပ်စာ | : -------------------------- | လိပ်စာ | : -------------------------- |

ဦးမြင့်သိန်း

နှင့်

အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက်

တို့၏

မြေငှားရမ်းခြင်းသဘောတူညီမှုစာချုပ်

( မူကြမ်း )

# မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)

ဤမြေငှားသဘောတူစာချုပ်ကို ၂၀၁၆ ခုနှစ်၊ လ၊ ရက်နေ့တွင် မြန်မာနိုင်ငံသားများဖြစ်သူ အမှတ်၄၀(အေ)၊ ဖိုးစိန်လမ်း၊ နတ်မောက်ရပ်ကွက်၊ တာမွေမြို့နယ်နေထိုင်သူ ဦးမြင့်သိန်း( နိုင်ငံသားမှတ်ပုံတင်အမှတ် ၉/မရမ (နိုင်) ၀ရ၉၄၃၉ )(ဤမှနောင်တွင် “အငှားချထားသူ” ဟုခေါ်ဆိုစေရမည်၊ ယင်းစကားရပ်တွင်စာသားအရသော်လည်းကောင်း ၊ရှေ့နောက်ကွဲလွဲခြင်းမရှိပါက ၄င်းတို့၏ကိုယ်စားလှယ်များ၊ ဆက်ခံသူများ နှင့်ဥပဒေအရခွင့်ပြုထားသည့်လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟုမှတ်ယူရမည် ) တို့က တစ်ဖက်

နှင့်

အမှတ် ရ၄၊ (၁)လမ်း၊ ( ၈ ) ရပ်ကွက်၊ တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့ တွင် ကုမ္ပဏီ၏မှတ်ပုံတင်ရုံးတည်ရှိသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်တည်ဆဲဥပဒေများအရ မှတ်ပုံတင်ဖွဲ့စည်းထားသည့်ကုမ္ပဏီလီမိတက်တစ်ခုဖြစ်သည့် အောင်ကမ္ဘာမော်တာဝန်ဆောင်မှု ကုမ္ပဏီလီမိတက် ( နောင်တွင် “အငှားချထားခြင်းခံရသူ” ဟု ခေါ်ဆိုစေရမည်၊ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ ရှေ့နောက်ကွဲလွဲခြင်းမရှိပါက ၄င်းတို့၏ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ဥပဒေအရခွင့်ပြုထားသည့်လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟုမှတ်ယူရမည်)ကို ကိုယ်စားပြုသူအဖြစ် အုပ်ချုပ်မှုဒါရိုက်တာ ဦးအောင်စိန် (နိုင်ငံသားမှတ်ပုံတင်အမှတ်၉/မရမ(နိုင်)၀ရ၈၃၂၄ ) မှ အခြားတစ်ဖက်တို့သည်အောက်ပါအတိုင်း မြေငှားရမ်းခြင်းသဘောတူစာချုပ် ကိုချုပ်ဆိုကြသည်။

## ၁။ ရည်ရွယ်ချက်

**ဤသဘောတူစာချုပ်သည် “အငှားချထားသူ” အား ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ** မြေအသုံးချခွင့်ပြုထား**သော ဦးပိုင်မြေကွက်အမှတ်** ၅၆/၂ဃ၊ ထားတလင်းကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ မြောက်ပိုင်းခရိုင်၊ရန်ကုန်တိုင်းဒေသကြီး တွင်တည်ရှိသည့် စုစုပေါင်းမြေဧရိယာ( ၄.၆၅ )ဧက / ၁၈၈၁ရ.၈ စတုရန်းမီတာ ကျယ်ဝန်းသောမြေကွက် ကို “အငှားချထားခြင်းခံရသူ”သည် မော်တော်ကားတပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်းကိုရင်းနှီးမြှုပ်နှံမှုဆောင်ရွက်နိုင်ရန်အလို့ငှာ နှစ်ရှည်ငှားရမ်းခြင်းဖြစ်ပါသည်။

ဤမြေသည် “အငှားချထားသူ” မှလက်ဝယ်ရှိပြီး၊ တရားဝင်ပိုင်ဆိုင်မှုရှိကြောင်း တာဝန်ယူအာမခံပါသည်။ သို့ဖြစ်၍မြေငှားရမ်းခြင်းနှင့်ပတ်သက်၍ အောက်ပါသဘောတူညီမှုများကို နှစ်ဦးနှစ်ဖက်ပြုလုပ်ကြပါသည်။

## ၂။ ကိုယ်စားပြုခြင်းနှင့်အာမခံချက်

၂-၁ “အငှားချထားသူ” သည် နောက်ဆက်တွဲအဖြစ်ဖော်ပြထားသော အငှားချထားသည့်မြေကွက်ကိုဥပဒေနှင့်အညီ တရားဝင်အမည်ပေါက်ပိုင်ဆိုင်ခွင့်ရှိသူ ဖြစ်ကြောင်းအာမခံသည်။ “အငှားချထားသူ”သည်အငှားချထားသည့်မြေကွက်ကိုအောက်ပါ စည်းကမ်းချက်များနှင့်အညီ “အငှားချထားခြင်းခံရသူ” အား အငှားချထားရန်သဘောတူသည်။ “အငှားချထားခြင်းခံရသူ” သည်ဤစာချုပ်ကိုအကောင်အထည်ဖော်ရန်အတွက်သက်ဆိုင်သောဥပဒေများနှင့်အညီ တရားဝင်ဖွဲ့စည်းတည်ထောင်ထားပြီးလျှင် ဥပဒေအရလုပ်ပိုင်ခွင့်အခွင့်အာဏာနှင့် စီးပွားရေးအရခိုင်မာတောင့်တင်းမှု ရှိသောသူများ ဖြစ်ကြောင်းအာမခံသည်။

## ၃။ ငှားရမ်းမည့်အချိန်ကာလ

၃-၁ ငှားရမ်းမည့်အချိန်ကာလ မှာ ဤသဘောတူစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစပြီး ကနဦး နှစ်(၃၀)ကာလအထိ ဖြစ်ပါသည်။ ယင်းကာလကုန်ဆုံးသောအခါ နောက်ထပ်ငှားရမ်းသက်တမ်းကို ၅(ငါး)နှစ်စီ ၂(နှစ်)ကြိမ်သက်တမ်းတိုးမြှင့် ငှားရမ်းအသုံးပြုရန်ဖြစ်သည်။

၃-၂ စုစုပေါင်းသက်တမ်း (၄၀)နှစ်ကုန်ဆုံးပြီးနောက် နှစ်ဦးနှစ်ဘက်ညှိနိုင်း၍ယင်းသဘောတူညီမှုအရ ဆက်လက်တိုးမြှင့် ငှားရမ်းမည်ဖြစ်သည်။ ထိုသို့တိုးမြှင့်ငှားရမ်းခြင်းနှင့်ပတ်သက်၍မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိပြီးမှသာလျှင် အတည်ဖြစ်စေရမည်။ ငှားရမ်းခြင်းသက်တမ်းကို ငှားရမ်းခြင်းစတင်သည့်နေ့မှ စတင်ရေတွက်မည်ဖြစ်သည်။ငှားရမ်းခြင်းစတင်သည့်နေ့မှာဤသဘောတူစာချုပ်လက်မှတ်ရေးထိုးသောနေ့ဖြစ်သည်။

## ၄။ ငှားရမ်းခ

၄-၁ ဤမြေငှားရမ်းခြင်း သဘောတူစာချုပ် ချုပ်ဆိုသည့်နေ့မှ စတင်၍ "အငှားချထားခြင်းခံရသူ" သည် အငှားချထားသည့်မြေကွက်အတွက် ငှားရမ်းခ အဖြစ် တစ်လလျှင် ကျပ် ၁၀၀၀၀၀၀/-(ကျပ်တစ်ဆယ်သိန်းတိတိ) နှုန်းဖြင့် တစ်(၁)နှစ်အတွက်ကျသင့်ငွေကျပ် ၁၂၀၀၀၀၀၀/-(ကျပ်သိန်းတစ်ရာနှစ်ဆယ်တိတိ)ကိုပေးချေရာတွင် တစ်နှစ်စာရင်းပိတ်သည့်အထိစောင့်ဆိုင်းခြင်းမပြုဘဲ ပထမနှစ်အတွင်းပထမလ၏ဒုတိယရက်သတ္တပတ်အတွင်း ကြိုတင်၍ ငှားရမ်းခကို "အငှားချထားခြင်းခံရသူ" မှ "အငှားချထားသူ" အား အပြေအလည်ပေးချေရန် သဘောတူညီကြပါသည်။

၄-၂ ဤမြေငှားရမ်းခြင်း သဘောတူစာချုပ်ဝင်ပုဂ္ဂိုလ်များသည် ငှားရမ်းခြင်းကာလ(၅)နှစ်ပြည့်မြောက်သည့်အခါတိုင်း ပြီးခဲ့သောကာလ၏ ငှားရမ်းခနှုန်းထားများအပေါ် ( ၁၀ ) ရာခိုင်နှုန်းထက်မပိုစေဘဲ ပြန်လည်ညှိနှိုင်းတိုးမြှင့် သတ်မှတ်ပိုင်ခွင့်ရှိစေရမည်။

## ၅။ အငှားချထားခြင်းခံရသူ၏တာဝန်များ

၅-၁ အငှားချထားခြင်းခံရသူသည် အငှားချထားသူနှင့် ရှင်းလင်းစွာပြုလုပ်ထားသောဆောင်ရွက်ပေးရန်တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်သည်။

(က) အငှားချထားခြင်းခံရသူသည် ငှားရမ်းသည့်ကာလများအတွက် ငှားရမ်းခများကို သတ်မှတ်သဘောတူထားသောနေ့ရက်တွင် ပေးရမည့်အပြင် မြေခွန်မှအပ လုပ်ငန်းဆောင်ရွက်မှုနှင့်သက်ဆိုင်သည့်သက်ဆိုင်ရာ အာဏာပိုင်များသို့ပေးဆောင်ရမည့်အခွန်အရပ်ရပ်နှင့်ဤမြေငှားရမ်းခြင်းသဘောတူစာချုပ်ချုပ်ဆိုခြင်း အတွက်ကျသင့်သောတံဆိပ်ခေါင်းခွန်ကိုလည်း ပေးဆောင်ရမည်၊

(ခ) အငှားချထားသောမြေနေရာကိုကားလုပ်ငန်းဆောင်ရွက်ရန်အတွက်သာငှားရမ်းခြင်းဖြစ်ပြီး ကားစက်ရုံ အရောင်းပြခန်း၊ ကားဆားဗစ်စင်တာဖွင့်လှစ်ခြင်းမှအပ အငှားချထားသသည့်မြေအားလုံးကိုသော်လည်းကောင်း၊တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း အငှားချထားသူ၏စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိဘဲ ထပ်ဆင့်ငှားရမ်းခြင်း၊ လက်လွှဲပြောင်းခြင်း၊ ခွဲစိတ်ရောင်းချခြင်းစသည့် တို့ကိုလုံးဝဆောင်ရွက်ခြင်းမပြုလုပ်ရ။

(ဂ) ငှားရမ်းသည့်မြေကွက်အတွင်း ကားလုပ်ငန်းဆောင်ရွက်ခြင်းမှ လျှပ်စစ်မီးအလွန်အကျွံသုံးစွဲမှုကြောင့် မီတာလောင်ကျွမ်းခြင်း၊ ဝါယာရှော့ဖြစ်ခြင်း အပါအဝင် မည်သည့်ပြဿနာတစ်စုံတစ်ရာပေါ် ပေါက်ခဲ့လျှင်ဖြစ်စေ၊ အငှားချထားခြင်းခံရသူနှင့်တကွ ပတ်သက်ဆက်နွယ်သူတို့၏ပေါ့ဆမှုကြောင့်မီးလောင်ကျွမ်းမှုဖြစ်စေ၊ အဆိုပါမည်သည့်ပြဿနာများအားလုံးကို အငှားချထားသူနှင့် လုံးဝပတ်သက်မှုမရှိစေရန်အငှားစေရန် အငှားချထားခြင်းခံရသူမှ တာဝန်ယူရမည်ဖြစ်ပြီး ပြဿနာများပြေလည်သည်အထိ သက်ဆိုင်ရာအစိုးရဌာနများတွင် အငှားချထားခြင်းခံရသူမှ အလုံးစုံတာဝန်ယူဖြေရှင်းဆောင်ရွက်ပေးရန် နှင့်ထို့သို့မီးလောင်ကျွမ်းမှုကြောင့် အငှားချထားသူတွင်နစ်နာမှုများရှိပါက အငှားချထားသူကျေနပ်သည်အထိဆောင်ရွက်ပေးရန်၊ အငှားချထားခြင်းခံရသူအနေဖြင့်ဖြစ်ပေါ် လာသောပြဿနာများဖြစ်ရာအနာတရများနှင့်ခိုက်ရာဖြစ်ပွားမှုအရပ်ရပ်ကိုကျေလည်သည်အထိဆောင်ရွက်ပေးမည်ဖြစ်ကြောင်းသဘောတူပါသည်။

(ဃ) ငှားရမ်းကာလမကုန်ဆုံးမီ အငှားခံထားခြင်း၊ ရပ်စဲရန်ဖြစ်စေ၊ တိုးမြင့်ရန်ဖြစ်စေ ပြုလုပ်လိုပါက (၃)လကြိုတင်၍ တစ်ဘက်သို့စာဖြင့် အကြောင်းကြားရမည်။

(င) အငှားချထားသည့်မြေကွက်ပေါ် တွင် တည်ဆဲဥပဒေအရ လုပ်ကိုင်ခွင့်ပြုထားသောလုပ်ငန်းများကို သာလုပ်ကိုင်ဆောင်ရွက်ရမည်။ ငှားရမ်းသည့်ကာလများအတွင်း အငှားချထားသောမြေနေရာကိုကောင်းမွန်စွာထိမ်းသိမ်းရမည် ဖြစ်ပြီး၊ ငှားရမ်းသည့်ကာလကုန်ဆုံးသောအခါတွင်ဖြစ်စေ၊ သို့မဟုတ် ထပ်မံတိုးချဲ့ငှားရမ်းခြင်းမပြုလုပ်သောအခါတွင်ဖြစ်စေ ၄င်းမြေနှင့်အဆောက်အဦးနေရာကို ကောင်းမွန်သောအနေအထားဖြင့်အငှားချထားသူထံသို့ အဖိုးအစားအနားမပါရှိဘဲ ပြန်လည်လွှဲပြောင်းပေးရမည်။

(စ) အငှားချထားသောမြေနေရာတွင် လုပ်ငန်းများဆောင်ရွက် အကောင်အထည်ဖော်ရာ၌ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏တရားဝင်တည်ဆဲဥပဒေများနှင့်အညီကိုက်ညီမှုရှိအောင်ဆောင်ရွက်ရမည်။

(ဆ) ဤသဘောတူစာချုပ်ကို စာချုပ်စာတမ်းများမှတ်ပုံတင်အက်ဥပဒေအရမှတ်ပုံတင်ရမည်။ဤသဘောတူစာချုပ်ကိုမှတ်ပုံတင်ခြင်းဖြင့်ပေးဆောင်ရမည့် တံဆိပ်ခေါင်းခွန်နှင့်စည်ပင်သာယာခွန်အပါအဝင်ဖြစ်သောအခြားအလားတူလုပ်ငန်းသဘောအရ ပေးဆောင်ရန်ရှိသောအခွန်အကောက်များကို ပေးဆောင်ရမည်။

(ဇ) အငှားချထားသောမြေပေါ်ရှိ အဆောက်အအုံများနှင့် လုပ်ငန်းအတွက် လိုအပ်သောအာမခံများကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် မြန်မာ့အာမခံဥပဒေများနှင့်အညီထားရှိမည်။

(ဈ) အငှားချထားခြင်းခံရသူသည် မိမိလုပ်ငန်းမှစွန့်ပစ်ပစ္စည်းကြောင့် ပတ်ဝန်းကျင်ရှိမြေနေရာ၊ ရေ နှင့်လေထုညစ်ညမ်းမှုများမှ ကာကွယ်ရေးအတွက် တာဝန်ယူပါသည်။

၆။ **အငှားချထားသူ၏တာဝန်များ**

၆-၁ အငှားချထားသူသည် အငှားချထားခြင်းခံရသူအားဆောင်ရွက်ပေးရန်တာဝန်မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) အငှားချထားသူ သည် အငှားချထားသည့်မြေ၏အကျိုးခံစားခွင့် အရပ်ရပ်ကို အငှားချထားခြင်းခံရသူ ထံသို့ ဤမြေငှားသဘောတူစာချုပ် အကျိုးသက်ရောက်သည့်နေ့မှစ၍ လွှဲပြောင်းပေးရမည်။

(ခ) အငှားချထားသူ သည် အငှားချထားသည့်မြေအား အငှားချထားခြင်းခံရသူမှ နိုင်ငံခြား သို့မဟုတ် နိုင်ငံခြားကုမ္ပဏီသို့ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်အတွက်ငှားရမ်းရန် ကြိုတင်ခွင့်ပြုချက်တောင်းခံ လာပါက အငှားချထားခြင်းခံရသူ အားခွင့်ပြုပေးရမည်။

(ဂ) အငှားချထားသူသည် အငှားချထားသောမြေနှင့်စပ်လျဉ်း၍ပေးဆောင်ရန်ရှိသော မြေခွန်အပါအဝင် အခွန်အခအရပ်ရပ်ကိုပေးဆောင်ရမည်။

(ဃ) အငှားချထားခြင်းခံရသူ မှ အဆိုပါမြေကွက်အတွင်း မလိုအပ်သောအပင်များကို အငှားချထားခြင်း ခံရသူ မှ စရိတ်ကျခံပြီးခုတ်ရန်အတွက် ခွင့်ပြုပေးရမည်။

(င) အငှားချထားစဉ်ကာလအတွင်း မည်သည့်အကြောင်းပြချက်များဖြင့် ငှားရမ်းခြင်းကို ဖြတ်တောက်ခြင်း မပြုရ၊ အငှားချထားခြင်းခံရသူအနေဖြင့် ငှားရမ်းခများကို ပေးဆောင်နေသည့်ငှားရမ်းကာလအတွင်း အငှားချထားသောမြေနှင့် အကျိုးဝင်သည့်အရာများကို ငြိမ်းချမ်းစွာ၊ အေးဆေးစွာနှင့် အနှောက်အယှက် ကင်းစွာတို့ဖြင့် အသုံးပြုဆောင်ရွက်ပိုင်ခွင့်ရှိစေရမည်ဖြစ်ပြီး၊ ငှားရမ်းသည့်ကာလအတွင်း အငှားချထားသူ ၏ သဘောဆန္ဒ-အရ သို့မဟုတ် တစ်ဦးဦး၏ဝင်ရောက်တောင်းဆိုမှုအရ သို့မဟုတ်အငှားချထားသူ၏ယုံ ကြည်အပ်နှံသူတို့မှ ပါဝင်ပတ်သက်မှုများဖြင့် ဝင်ရောက်နှောက်ယှက်ခြင်းမရှိစေရ။ အငှားချထားခြင်း ခံရသူမှလည်း(၃)နှစ်အတွင်း မငှားလိုပါက အငှားချထားသူ၏ နစ်နာဆုံးရှုံးမှုများအားဖြေရှင်းပေးရမည်။

၇။ **မလွှဲမရှောင်နိုင်သည့်ဖြစ်ရပ်များ**

၇-၁ မလွန်ဆန်နိုင်သည့် သဘာဝဘေးအန္တရာယ်များဖြစ်သည့် ရေကြီးခြင်း၊ မီးလောင်ခြင်း၊ လေမုန်တိုင်းကျ ရောက်ခြင်း၊ စစ်မက်ဖြစ်ပွားခြင်း၊ မြေငလျင်တုန်လှုပ်ခြင်းနှင့် အလားတူထိန်းချုပ်၍မရနိုင်သည့် ဖြစ်ရပ်များ သို့မဟုတ် မည်သည့်ဖက်မျှ ကြိုးစားအားထုတ်ဆောင်ရွက်မှုဖြင့် တားဆီးမရနိုင်သောဖြစ်ရပ်များကြောင့် တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များကို ထမ်းဆောင်ရန်ပျက်ကွက်ပါက အဆိုပါမလွှဲမရှောင်နိုင်သည့်ဖြစ်ရပ်များ ပေါ်ပေါက် ကြောင်းကို ဖြစ်ပေါ်သည့်အချိန်မှ (၁၄)ရက်အတွင်း အခြားတစ်ဖက်သို့ စာဖြင့်အကြောင်း ကြားရမည်။ အခြား တစ်ဖက် ကလည်း မလွန်ဆန်နိုင်သည့်ဖြစ်ရပ် ပေါ်ပေါက်ကြောင်းလက်ခံပါက စာချုပ် ချုပ်ဆိုသူနှစ်ဦး နှစ်ဖက် စလုံးတွင်မည်သည့်တာဝန်မျှမရှိစေရ၊ မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များပေါ်ပေါက် သည့်ကာလကို စာချုပ်သက်တမ်း ကာလမှ ထုတ်နှုတ်ရန် သဘောတူကြပါသည်။

၈။ သဘောတူစာချုပ်စတင်အကျိုးသက်ရောက်သောနေ့

၈-၁ ဤသဘောတူစာချုပ်သည် အငှားချထားသူနှင့်အငှားချထားခြင်းခံရသူတို့ နှစ်ဦးနှစ်ဘက် မြေငှားသဘော တူစာချုပ်ကို လက်မှတ်ရေးထိုးသဘောတူညီသည့်နေ့မှ စတင်၍အကျိုးသက်ရောက်မှုရှိစေရမည်ဖြစ်သည်။

၉။ စာချုပ်ရပ်စဲခြင်း

၉-၁ ဤသဘောတူစာချုပ်ကို အောက်ပါအခြေအနေတစ်ရပ်ရပ် ပေါ်ပေါက်လာပါက ရပ်စဲခြင်း ပြုလုပ်နိုင်သည်။

(က) လုပ်ငန်းတွင် ကြီးမားစွာ ဆက်တိုက်အရှုံးပေါ်ပေါက်နေခြင်း၊

(ခ) မြေငှားသဘောတူစာချုပ်ဝင် တဖက်ဖက်မှ စာချုပ်ပါ တာဝန်များဆောင်ရွက်ရန် ပျက်ကွက်ခြင်း၊

(ဂ) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုလုပ်နိုင်သော မလွှဲမရှောင်နိုင်သည့်ဖြစ်ရပ်များ (၆)လ ထက်ပိုမိုဖြစ်ပေါ်လာခြင်း၊

(ဃ) သဘောတူစာချုပ်၏ မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်းမရှိခြင်း၊

၉-၂ သို့သော်ငြားခည်း အငှားချထားခြင်းခံသူသည် ၎င်း၏လုပ်ငန်းများ ဆက်လက်ဆောင်ရွက်နိုင်ရန်နှင့် ပြန်လည် တည်ထောင်မှုပြုလုပ်နိုင်ရန်အတွက် ဤသဘောတူစာချုပ်ပါ ၎င်း၏အခွင့်အရေးများကို ခြွင်းချက်အဖြစ် သက် သာခွင့်ရရှိစေနိုင်သည်။ ဤသဘောတူစာချုပ်တွင်ပါရှိသော ပြဋ္ဌာန်းသတ်မှတ်ချက်များနှင့်အညီ နှစ်ဦး နှစ်ဖက် တို့သည် ဤသဘောတူစာချုပ်ကို ရပ်စဲလိုပါက ရပ်စဲလိုကြောင်း အကြောင်းကြားစာ ကို အခြားတစ်ဖက်ထံသို့ (၃)လ ကြိုတင်၍ ပေးပို့အသိပေးရမည်။

၉-၃ ဤကဲ့သို့ မြေငှားသဘောတူစာချုပ်ရပ်စဲရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ သဘောတူ အတည်ပြု ချက် ရရှိပြီးမှသာလျှင် စာချုပ်ရပ်စဲနိုင်ခွင့်ရှိသည်။

၁၀။ အနုညာတစီရင်ဆုံးဖြတ်ခြင်း

၁၀-၁ အကယ်၍ ဤမြေငှားသဘောတူစာချုပ်ပါ အချက်အလက်များနှင့်ပတ်သက်ပြီး၊ အကောင်အထည်ဖော် ဆောင်ရွက်ရာတွင်ဖြစ်စေ၊ အဓိပ္ပါယ်လွဲမှားမှုကြောင့်ဖြစ်စေ၊ အငြင်းပွားမှုများဖြစ်ပေါ်လာပါက သဘောတူ စချုပ်တွင် လက်မှတ်ရေးထိုးထားသည့် နှစ်ဦးနှစ်ဖက်စလုံးမှ ညှိနှိုင်းဆွေးနွေးခြင်းဖြင့် အငြင်းပွားမှုများကို ပြေလည်ငြိမ်းအေးစေနိုင်သည်။ နှစ်ဦးနှစ်ဖက်အကျေအလည်ညှိနှိုင်းဆွေးနွေး၍ မရရှိခဲ့ပါက မြန်မာနိုင်ငံ အတွင်း၌ နှစ်ဦးနှစ်ဖက်အတွက် ခုံသမာဓိလူကြီးတစ်ဦးစီ ရွေးချယ်ခန့်ထားပြီး ညှိနှိုင်းဆွေးနွေးနိုင်ခွင့် ရှိသည်။ နှစ်ဦးနှစ်ဖက်မှ ခန့်အပ်ထားသော ခုံသမာဓိလူကြီးများမှ အငြင်းပွားမှုများကို ပြေလည်အောင် ဖြေရှင်း—ပေးနိုင်ခြင်းမရှိပါက အဆိုပါခုံသမာဓိလူကြီးများသဘောတူသော ခုံသမာဓိလူကြီး၏ အဆုံးအဖြတ်ကို နှစ်ဖက် စလုံးမှလက်ခံကြရမည်။ ၎င်းခုံသမာဓိလူကြီး၏ အဆုံးအဖြတ်သည် အပြီးသတ်ဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များအပေါ်အတည်

ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းမှာ ၂၀၁၆ ခုနှစ်၊ မြန်မာနိုင်ငံအနုညာတ ဥပဒေနှင့် နောက်ပိုင်းပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ ခုံသမာဓိ အဖွဲ့၏ ဖြေရှင်းဆုံးဖြတ်ရန် နေရာမှာ ရန်ကုန်မြို့၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင်သာ ဖြစ်ရပါမည်။ ခုံသမာဓိရုံး၏ ကုန်ကျစရိတ်များကို အမှုရှုံးသည့်ဖက်မှ ကျခံပေးဆောင်ရမည်။

၁၁။ လွှမ်းမိုးသောဥပဒေ

၁၁-၁ -သဘောတူစာချုပ်ကိုပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ဥပဒေများနှင့်အညီအကောင်အထည်ဖော်ဆောင်ရွက်ရမည်။ ဤစာချုပ်ကို လွှမ်းမိုးသောဥပဒေသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏တည်ဆဲဥပဒေများဖြစ်သည်။ ဤစာချုပ်ပါနှစ်ဦး နှစ်ဖက်စလုံးသည် စီရင်ပိုင်ခွင့်ရှိသော သက်ဆိုင်ရာမြန်မာတရားရုံးနှင့် အယူခံမှုများကို ကြားနာနိုင်သော တရားရုံးအားလုံး၏ စီရင် ပိုင်ခွင့်ကိုလက်ခံကြပါသည်။

၁၂။ ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ

၁၂-၁ ဤသဘောတူစာချုပ်တွင်ပါဝင်သော လုပ်ငန်းဆောင်ရွက်ချက်များကို အကောင်အထည်ဖော် ဆောင်ရွက်မှုများအတွက် သက်ဆိုင်ရာအစိုးရဌာနအဖွဲ့အစည်းများ၏ ခွင့်ပြုသဘောတူညီချက်ရရှိပြီးမှသာလျှင် ဆောင်ရွက် နိုင်ခွင့်ရှိကြမည်ဖြစ်သည်။

၁၃။ စာချုပ်အားဖြင့်ပြန်လည်ပြင်ဆင်စေ့စပ်ညှိနှိုင်းခြင်း

၁၃-၁ ဤသဘောတူစာချုပ်၌ ကြိုတင်မမျှော်မှန်းနိုင်သော အခြေအနေတစ်ခုခုပေါ်ပေါက်လာသဖြင့် စာချုပ်ပါ အချက်အလက်များကို ဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်သောအခါတွင် နှစ်ဦးနှစ်ဖက်မှစေ့စပ်ညှိနှိုင်းပြီး စာချုပ်ပါ အချက်များကို လိုအပ်သလိုပြင်ဆင်ခွင့် ရှိစေရမည်ဖြစ်သည်။ ဤကဲ့သို့ပြင်ဆင်ရာတွင် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ သဘောတူညီအတည်ပြုချက် ရရှိပြီးမှသာလျှင် အတည်ဖြစ်မည် ဖြစ်သည်။

၁၄။ ဘာသာစကား

၁၄-၁ ဤမြေငှားသဘောတူစာချုပ်ကို ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ မြန်မာဘာသာဖြင့် စာချုပ်သုံးစောင်ရေးသားပြီးလျှင် စာချုပ်နှစ်စုံကို နှစ်ဦးနှစ်ဖက်မှ တစ်စုံစီရယူထားပြီး၊ ကျန်သော စာချုပ်တစ်စုံကိုသက်ဆိုင်ရာအာဏာပိုင်အဖွဲ့အစည်းထံသို့ပေးပို့၍စစ်ဆေးခြင်းနှင့်အတည်ပြုချက်များရယူနိုင်ရန်ပေးပို့ရမည်။

၁၆။ အကြောင်းကြားစာ

၁၆-၁ ဤသဘောတူစာချုပ်နှင့်ပတ်သက်၍ အကြောင်းကြားစာနှင့် အခြားဆက်သွယ်မှုများအား အောက်ဖော်ပြပါ လိပ်စာများအတိုင်း မြန်မာဘာသာဖြင့်ရေးသားပြီးလျှင် စာတိုက်မှမှတ်ပုံတင်ချောစာဖြင့်ဖြစ်စေ သို့မဟုတ် တဲလက်စ်

ဖြင့်ဖြစ်စေ၊ ဖက်စ်ဖြင့်ဖြစ်စေ နှစ်ဦးနှစ်ဖက်ဆက်သွယ်ပေးပို့ရမည်။ ထိုသို့ဆက်သွယ်ပေးပို့ရာတွင် သဘောတူစာချုပ်ချုပ်ဆိုစဉ်က လိပ်စာအတိုင်းသော်လည်းကောင်း၊ တစ်ဖက်မှအကြောင်းကြားလာသည့် အခြား လိပ်စာဖြင့်သော်လည်းကောင်း ဆက်သွယ်ပေးပို့ရမည်။ လိပ်စာများမှာ-

(က) "အငှားချထားသူ" (၁)အမည် - ဦးမြင့်သိန်း ( ၉/မရမ(နိုင်) ၀၇၉၄၃၉
(၂)လိပ်စာ - အမှတ် ( ၄၀/အေ)၊ ဖိုးစိန်လမ်း၊ နတ်မောက်ရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။
(၃)ဖုန်းအမှတ် -
(၄)ဖက်စ်နံပါတ် -
(၅)တဲလက်နံပါတ် -

(ခ) "အငှားချထားခြင်းခံရသူ" (၁)အမည် - အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက်
(၂)လိပ်စာ - အမှတ် ၇၄၊ (၁)လမ်း။ (၈)ရပ်ကွက်၊
- တောင်ဥက္ကလာပမြို့နယ်။ရန်ကုန်မြို့
(၃)ဖုန်းအမှတ် -
(၄)ဖက်စ်နံပါတ် -
(၅)တဲလက်နံပါတ် -

၁၆-၂ ယခုကဲ့သို့စာရွက်စာတမ်းများ ပေးပို့ဆက်သွယ်သည့်အခါတွင် ပေးပို့ခြင်းကိုလက်ခံရယူသည့်ဖက်မှ လက်ခံရရှိပြီးဖြစ်ကြောင်းအကြောင်းပြန်ကြားစာရရှိပြီးမှသာလျှင်ပေးပို့ခြင်းကိစ္စပြီးမြောက်ပြီးဖြစ်သည်ဟုအတည်ပြုနိုင်သည် အကယ်၍တစ်ဖက်ဖက်မှ လိပ်စာအပြောင်းအလဲရှိပါက စာဖြင့်ရေးသားပြီး အကြောင်းကြားစာကို ပေးပို့ရမည်။

၁၇။ အငှားချထားသောမြေပုံ

၁၇၊၁ ဤမြေငှားသဘောတူစာချုပ်အရအငှားချထားမည့် ဦးပိုင်မြေကွက်အမှတ် ၅၆/၂၃၊ ဆားတလင်းကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်မြို့တွင်တည်ရှိ သောအငှားချထားသူပိုင် ( ၄.၆၅ ) ဧကကျယ်ဝန်းသောမြေနေရာပြပုံကို နောက်ဆက်တွဲ(က-၁)၌တွင် ပူးတွဲဖော်ပြ ထားပါသည်။

၁၈။ တွင်းထွက်ပစ္စည်းများနှင့်သယံဇာတပစ္စည်းများ

၁၈-၁ ဤမြေငှားသဘောတူစာချုပ်အရ ငှားရမ်းမှုပြုလုပ်ထားသော မြေနေရာတွင် မည်သည့်အချိန်တွင်မဆို ထွက်ပေါ်ရရှိလာသော ဓါတ်သတ္တုများ၊သဘာဝတွင်းထွက်သယံဇာတပစ္စည်းများ၊ ကျောက်မျက်ရတနာများ၊ ကြေးနီ၊ ရေနံနှင့်အခြားသောတူးဖော်ရရှိလာမည့် သဘာဝအရင်းမြစ်များအားလုံးသည် ပြည်ထောင်စုမြန်မာ နိုင်ငံတော်အစိုးရနှင့်သာ သက်ဆိုင်စေရမည်ဖြစ်ပြီး အငှားချထားသူအနေဖြင့် သက်ဆိုင်ရာအစိုးရဌာနသို့ အကြောင်းကြားတင်ပြပေးရမည်ဖြစ်သည်။

၁၉။ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

၁၉-၁ "အငှားချထားခြင်းခံရသူ" သည် အဆောက်အအုံများနှင့် ၄င်းတို့၏ပတ်ဝန်းကျင်တစ်ဝိုက်တွင် ဘေးအန္တရာယ်ကျရောက်မှုနှင့် ညစ်ညမ်းမှုများတို့မှ ကာကွယ်ရန်လိုအပ်သောကြိုတင်ပြင်ဆင်မှုများကို ဆောင်ရွက်ပေးရမည်။ ၄င်းတို့၏အစိတ်အပိုင်း အပေါ်တွင် ဆောင်ရွက်မည့် လုပ်ဆောင်မှုများနှင့် လုပ်ငန်းဆောင်ရွက်မှုကြောင့် ပေါ်ပေါက်လာမည့် မည်သည့်လျော်ကြေး တောင်းဆိုမှုမျိုးမဆိုအငှားချထားသူ အပေါ်တွင်တာဝန်မရှိစေရ။ "အငှားချထားခြင်းခံရသူ"ကသာကျခံပေးချေရမည်။

၂၀။ အထွေထွေ

၂၀-၁ ဤသဘောတူစာချုပ်တွင် ဖော်ပြပါရှိသော အချက်အလက်များသည် သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့ စည်းမျဉ်းတွင် ပြဋ္ဌာန်းထားသောအချက်အလက်များနှင့် အဓိပ္ပါယ်ကွဲလွဲခြင်း၊ ရှေ့နောက်မညီမညွတ်ဖြစ်နေခြင်း များဖြစ်ပေါ် လာပါက မြေငှားသဘောတူစာချုပ်တွင် ပြဋ္ဌာန်းထားသောအချက်အလက်များကိုသာ အတည်ဖြစ်သည်ဟု မှတ်ယူစေရမည်ဖြစ်သည်။

ဤသဘောတူစာချုပ်ကို အထက်ဖော်ပြပါ------------------- ခုနှစ်၊ --------------------လ နှင့် --------------------နေ့ရက်တွင် နှစ်ဦးနှစ်ဖက်မှ တရားဝင်ကိုယ်စားလှယ်များမှ တံဆိပ်ရိုက်နှိပ်ပြီး၊ လက်မှတ်ရေးထိုး သဘောတူညီကြပါသည်။

| | |
|---|---|
| အငှားချထားသူ | အငှားချထားခြင်းခံရသူ |
| ဦးမြင့်သိန်း | အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက် |
| | ကိုယ်စားလက်မှတ်ရေးထိုးသူ |

| | | | |
|---|---|---|---|
| လက်မှတ် | : ------------------------- | လက်မှတ် | : ------------------------- |
| အမည် | : ------------------------- | အမည် | : ------------------------- |
| လိပ်စာ | : ------------------------- | လိပ်စာ | : ------------------------- |

| | |
|---|---|
| အသိသက်သေ | အသိသက်သေ |

| | | | |
|---|---|---|---|
| လက်မှတ် | : ------------------------- | လက်မှတ် | : ------------------------- |
| အမည် | : ------------------------- | အမည် | : ------------------------- |
| လိပ်စာ | : ------------------------- | လိပ်စာ | : ------------------------- |

ဒေါ် သန္တာစိုး

နှင့်

အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက်

တို့၏

# မြေငှားရမ်းခြင်းသဘောတူညီမှုစာချုပ်

( မူကြမ်း )

# မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)

ဤမြေငှားသဘောတူစာချုပ်ကို ၂၀၁၆ ခုနှစ်၊ လ၊ ရက်နေ့တွင် မြန်မာနိုင်ငံသားများဖြစ်သူ အမှတ်၄၀(အေ)၊ ဖိုးစိန်လမ်း၊ နတ်မောက်ရပ်ကွက်၊ တာမွေမြို့နယ်နေထိုင်သူ ဒေါ်သန္တာစိုး (နိုင်ငံသားမှတ်ပုံတင်အမှတ်၉/မရမ(နိုင်)၁၀၂၄၉၁ )(ဤမှနောင်တွင် "အငှားချထားသူ" ဟုခေါ်ဆိုစေရမည်၊ ယင်းစကားရပ်တွင်စာသားအရသော်လည်းကောင်း၊ ရှေ့နောက်ကွဲလွဲခြင်းမရှိပါက ၎င်းတို့၏ကိုယ်စားလှယ်များ၊ ဆက်ခံသူများ နှင့်ဥပဒေအရခွင့်ပြုထားသည့်လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟုမှတ်ယူရမည် ) တို့က တစ်ဖက်

နှင့်

အမှတ် ရ၄၊ (၁)လမ်း၊ ( ၈ ) ရပ်ကွက်၊ တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့ တွင် ကုမ္ပဏီ၏မှတ်ပုံတင်ရုံးတည်ရှိသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်တည်ဆဲဥပဒေများအရ မှတ်ပုံတင်ဖွဲ့စည်းထားသည့်ကုမ္ပဏီလီမိတက်တစ်ခုဖြစ်သည့် အောင်ကမ္ဘာမော်တာဝန်ဆောင်မှု ကုမ္ပဏီလီမိတက် ( နောင်တွင် "အငှားချထားခြင်းခံရသူ" ဟု ခေါ်ဆိုစေရမည်၊ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ ရှေ့နောက်ကွဲလွဲခြင်းမရှိပါက ၎င်းတို့၏ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ဥပဒေအရခွင့်ပြုထားသည့်လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟုမှတ်ယူရမည်)ကို ကိုယ်စားပြုသူအဖြစ် ဒါရိုက်တာဦးမြင့်သိန်း ( နိုင်ငံသားမှတ်ပုံတင်အမှတ် ၉/မရမ (နိုင်)၀ရ၉၄၃၉ ) မှ အခြားတစ်ဖက်တို့သည် အောက်ပါအတိုင်း မြေငှားရမ်းခြင်း သဘောတူစာချုပ် ကိုချုပ်ဆိုကြသည်။

## ၁။ ရည်ရွယ်ချက်

ဤသဘောတူစာချုပ်သည် "အငှားချထားသူ" အား ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ မြေအသုံးချခွင့်ပြုထားသော ဦးပိုင်မြေကွက်အမှတ် ၅ရ/၂၊ ဆားတလင်းကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ မြောက်ပိုင်းခရိုင်၊ရန်ကုန်တိုင်းဒေသကြီး တွင်တည်ရှိသည် စုစုပေါင်းမြေဧရိယာ( ၄.ရ၀ )ဧက / ၁၉၀၂၀.၂ စတုရန်းမီတာ ကျယ်ဝန်းသောမြေကွက် ကို "အငှားချထားခြင်းခံရသူ"သည် မော်တော်ကားတပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်းကိုရင်းနှီးမြှုပ်နှံမှုဆောင်ရွက်နိုင်ရန်အလို့ငှာ နှစ်ရှည်ငှားရမ်းခြင်းဖြစ်ပါသည်။

ဤမြေသည် "အငှားချထားသူ" မှလက်ဝယ်ရှိပြီး၊ တရားဝင်ပိုင်ဆိုင်မှုရှိကြောင်း တာဝန်ယူအာမခံပါသည်။ သို့ဖြစ်၍မြေငှားရမ်းခြင်းနှင့်ပတ်သက်၍ အောက်ပါသဘောတူညီမှုများကို နှစ်ဦးနှစ်ဖက်ပြုလုပ်ကြပါသည်။

## ၂။ ကိုယ်စားပြုခြင်းနှင့်အာမခံချက်

၂-၁ "အငှားချထားသူ" သည် နောက်ဆက်တွဲအဖြစ်ဖော်ပြထားသော အငှားချထားသည့်မြေကွက်ကိုဥပဒေနှင့်အညီ တရားဝင်အမည်ပေါက်ပိုင်ဆိုင်ခွင့်ရှိသူ ဖြစ်ကြောင်းအာမခံသည်။ "အငှားချထားသူ"သည်အငှားချထားသည့်မြေကွက်ကိုအောက်ပါ စည်းကမ်းချက်များနှင့်အညီ "အငှားချထားခြင်းခံရသူ" အား အငှားချထားရန်သဘောတူသည်။ "အငှားချထားခြင်းခံရသူ" သည်ဤစာချုပ်ကိုအကောင်အထည်ဖော်ရန်အတွက်သက်ဆိုင်သောဥပဒေများနှင့်အညီ တရားဝင်ဖွဲ့စည်းတည်ထောင်ထားပြီးလျှင် ဥပဒေအရလုပ်ပိုင်ခွင့်အခွင့်အာဏာနှင့် စီးပွားရေးအရခိုင်မာတောင့်တင်းမှုရှိသောသူများ ဖြစ်ကြောင်းအာမခံသည်။

၃။ ငှားရမ်းမည့်အချိန်ကာလ

၃-၁ ငှားရမ်းမည့်အချိန်ကာလ မှာ ဤသဘောတူစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစပြီး ကနဦး နှစ်(၃၀)ကာလအထိ ဖြစ်ပါသည်။ ယင်းကာလကုန်ဆုံးသောအခါ နောက်ထပ်ငှားရမ်းသက်တမ်းကို ၅(ငါး)နှစ်စီ ၂(နှစ်)ကြိမ်သက်တမ်းတိုးမြှင့် ငှားရမ်းအသုံးပြုရန်ဖြစ်သည်။

၃-၂ စုစုပေါင်းသက်တမ်း (၄၀)နှစ်ကုန်ဆုံးပြီးနောက် နှစ်ဦးနှစ်ဘက်ညှိနှိုင်း၍ယင်းသဘောတူညီမှုအရ ဆက်လက်တိုးမြှင့် ငှားရမ်းမည်ဖြစ်သည်။ ထိုသို့တိုးမြှင့်ငှားရမ်းခြင်းနှင့်ပတ်သက်၍မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိပြီးမှသာလျှင် အတည်ဖြစ်စေရမည်။ ငှားရမ်းခြင်းသက်တမ်းကို ငှားရမ်းခြင်းစတင်သည့်နေ့မှ စတင်ရေတွက်မည်ဖြစ်သည်။ငှားရမ်းခြင်းစတင်သည့်နေ့မှာဤသဘောတူစာချုပ်လက်မှတ်ရေးထိုးသောနေ့ဖြစ်သည်။

၄။ ငှားရမ်းခ

၄-၁ ဤမြေငှားရမ်းခြင်း သဘောတူစာချုပ် ချုပ်ဆိုသည့်နေ့မှ စတင်၍ "အငှားချထားခြင်းခံရသူ" သည် အငှားချထားသည့်မြေကွက်အတွက် ငှားရမ်းခ အဖြစ် တစ်လလျှင် ကျပ် ၁၀၀၀၀၀၀၀/-(ကျပ်တစ်ဆယ်သိန်းတိတိ) နှုန်းဖြင့် တစ်(၁)နှစ်အတွက်ကျသင့်ငွေကျပ် ၁၂၀၀၀၀၀၀၀/-(ကျပ်သိန်းတစ်ရာနှစ်ဆယ်တိတိ)ကိုပေးချေရာတွင် တစ်နှစ်စာရင်းပိတ်သည့်အထိစောင့်ဆိုင်းခြင်းမပြုဘဲ ပထမနှစ်အတွင်းပထမလ၏ဒုတိယရက်သတ္တပတ်အတွင်း ကြိုတင်၍ ငှားရမ်းခကို "အငှားချထားခြင်းခံရသူ" မှ "အငှားချထားသူ" အား အပြေအလည်ပေးချေရန် သဘောတူညီကြပါသည်။

၄-၂ ဤမြေငှားရမ်းခြင်း သဘောတူစာချုပ်ဝင်ပုဂ္ဂိုလ်များသည် ငှားရမ်းခြင်းကာလ(၅)နှစ်ပြည့်မြောက်သည့်အခါတိုင်း ပြီးခဲ့သောကာလ၏ ငှားရမ်းခနှုန်းထားများအပေါ် ( ၁၀ ) ရာခိုင်နှုန်းထက်မပိုစေဘဲ ပြန်လည်ညှိနှိုင်းတိုးမြှင့် သတ်မှတ်ပိုင်ခွင့်ရှိစေရမည်။

၅။ အငှားချထားခြင်းခံရသူ၏တာဝန်များ

၅-၁ အငှားချထားခြင်းခံရသူသည် အငှားချထားသူနှင့် ရှင်းလင်းစွာပြုလုပ်ထားသောဆောင်ရွက်ပေးရန်တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်သည်။

(က) အငှားချထားခြင်းခံရသူသည် ငှားရမ်းသည့်ကာလများအတွက် ငှားရမ်းခများကို သတ်မှတ်သဘောတူထားသောနေ့ရက်တွင် ပေးရမည့်အပြင် မြေခွန်မှအပ လုပ်ငန်းဆောင်ရွက်မှုနှင့်သက်ဆိုင်သည့်သက်ဆိုင်ရာ အာဏာပိုင်များသို့ပေးဆောင်ရမည့်အခွန်အရပ်ရပ်နှင့်ဤမြေငှားရမ်းခြင်းသဘောတူစာချုပ်ချုပ်ဆိုခြင်း အတွက်ကျသင့်သောတံဆိပ်ခေါင်းခွန်ကိုလည်း ပေးဆောင်ရမည်၊

(ခ) အငှားချထားသောမြေနေရာကိုကားလုပ်ငန်းဆောင်ရွက်ရန်အတွက်သာငှားရမ်းခြင်းဖြစ်ပြီး ကားစက်ရုံ အရောင်းပြခန်း၊ ကားဆားဗစ်စင်တာဖွင့်လှစ်ခြင်းမှအပ အငှားချထားသည့်မြေအားလုံးကိုသော်လည်းကောင်း၊တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း အငှားချထားသူ၏စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိဘဲ ထပ်ဆင့်ငှားရမ်းခြင်း၊ လက်လွှဲပြောင်းခြင်း၊ ခွဲစိတ်ရောင်းချခြင်းစသည့် တို့ကိုလုံးဝဆောင်ရွက်ခြင်းမပြုလုပ်ရ။

(ဂ) ငှားရမ်းသည့်မြေကွက်အတွင်း ကားလုပ်ငန်းဆောင်ရွက်ခြင်းမှ လျှပ်စစ်မီးအလွန်အကျွံသုံးစွဲမှုကြောင့် မီတာလောင်ကျွမ်းခြင်း၊ ဝါယာရှော့ဖြစ်ခြင်း အပါအဝင် မည်သည့်ပြဿနာတစ်စုံတစ်ရာပေါ် ပေါက်ခဲ့လျှင်ဖြစ်စေ၊ အငှားချထားခြင်းခံရသူနှင့်တကွ ပတ်သက်ဆက်နွယ်သူတို့၏ပေါ့ဆမှုကြောင့်မီးလောင်ကျွမ်းမှုဖြစ်စေ၊ အဆိုပါမည်သည့်ပြဿနာများအားလုံးကို အငှားချထားသူနှင့် လုံးဝပတ်သက်မှုမရှိစေရန်အငှားစေရန် အငှားချထားခြင်းခံရသူမှ တာဝန်ယူရမည်ဖြစ်ပြီး ပြဿနာများပြေလည်သည်အထိ သက်ဆိုင်ရာအစိုးရဌာနများတွင် အငှားချထားခြင်းခံရသူမှ အလုံးစုံတာဝန်ယူဖြေရှင်းဆောင်ရွက်ပေးရန် နှင့်ထို့သို့မီးလောင်ကျွမ်းမှုကြောင့် အငှားချထားသူတွင်နစ်နာမှုများရှိပါက အငှားချထားသူကျေနပ်သည်အထိဆောင်ရွက်ပေးရန်၊ အငှားချထားခြင်းခံရသူအနေဖြင့်ဖြစ်ပေါ် လာသောပြဿနာများ၊ဒဏ်ရာအနာတရများနှင့်ခိုက်ရာဖြစ်ပွားမှုအရပ်ရပ်ကိုကျေလည်သည်အထိဆောင်ရွက်ပေးမည်ဖြစ်ကြောင်းသဘောတူပါသည်။

(ဃ) ငှားရမ်းကာလမကုန်ဆုံးမီ အငှားခံထားခြင်း၊ ရပ်စဲရန်ဖြစ်စေ၊ တိုးမြင့်ရန်ဖြစ်စေ ပြုလုပ်လိုပါက (၃)လကြိုတင်၍ တစ်ဘက်သို့စာဖြင့် အကြောင်းကြားရမည်။

(င) အငှားချထားသည့်မြေကွက်ပေါ် တွင် တည်ဆဲဥပဒေအရ လုပ်ကိုင်ခွင့်ပြုထားသောလုပ်ငန်းများကို သာလုပ်ကိုင်ဆောင်ရွက်ရမည်။ ငှားရမ်းသည့်ကာလများအတွင်း အငှားချထားသောမြေနေရာကိုကောင်းမွန်စွာထိမ်းသိမ်းရမည် ဖြစ်ပြီး၊ ငှားရမ်းသည့်ကာလကုန်ဆုံးသောအခါတွင်ဖြစ်စေ၊ သို့မဟုတ် ထပ်မံတိုးချဲ့ငှားရမ်းခြင်းမပြုလုပ်သောအခါတွင်ဖြစ်စေ ၄င်းမြေနှင့်အဆောက်အဦးနေရာကို ကောင်းမွန်သောအနေအထားဖြင့်အငှားချထားသူထံသို့ အဖိုးအစားအနားမပါရှိဘဲ ပြန်လည်လွှဲပြောင်းပေးရမည်။

(စ) အငှားချထားသောမြေနေရာတွင် လုပ်ငန်းများဆောင်ရွက် အကောင်အထည်ဖော်ရာ၌ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏တရားဝင်တည်ဆဲဥပဒေများနှင့်အညီကိုက်ညီမှုရှိအောင်ဆောင်ရွက်ရမည်။

(ဆ) ဤသဘောတူစာချုပ်ကို စာချုပ်စာတမ်းများမှတ်ပုံတင်အက်ဥပဒေအရမှတ်ပုံတင်ရမည်။ဤသဘောတူစာချုပ်ကိုမှတ်ပုံတင်ခြင်းဖြင့်ပေးဆောင်ရမည့် တံဆိပ်ခေါင်းခွန်နှင့်စည်ပင်သာယာခွန်အပါအဝင်ဖြစ်သောအခြားအလားတူလုပ်ငန်းသဘောအရ ပေးဆောင်ရန်ရှိသောအခွန်အကောက်များကို ပေးဆောင်ရမည်။

(ဇ) အငှားချထားသောမြေပေါ်ရှိ အဆောက်အအုံများနှင့် လုပ်ငန်းအတွက် လိုအပ်သောအာမခံများကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် မြန်မာ့အာမခံဥပဒေများနှင့်အညီထားရှိမည်။

(ဈ) အငှားချထားခြင်းခံရသူသည် မိမိလုပ်ငန်းမှစွန့်ပစ်ပစ္စည်းကြောင့် ပတ်ဝန်းကျင်ရှိမြေနေရာ၊ ရေ နှင့်လေထုညစ်ညမ်းမှုများမှ ကာကွယ်ရေးအတွက် တာဝန်ယူပါသည်။

၆။ **အငှားချထားသူ၏တာဝန်များ**

၆-၁ အငှားချထားသူသည် အငှားချထားခြင်းခံရသူအားဆောင်ရွက်ပေးရန်တာဝန်မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) အငှားချထားသူ သည် အငှားချထားသည့်မြေ၏အကျိုးခံစားခွင့် အရပ်ရပ်ကို အငှားချထားခြင်းခံရသူထံသို့ ဤမြေငှားသဘောတူစာချုပ် အကျိုးသက်ရောက်သည့်နေ့မှစ၍ လွှဲပြောင်းပေးရမည်။

(ခ) အငှားချထားသူ သည် အငှားချထားသည့်မြေအား အငှားချထားခြင်းခံရသူမှ နိုင်ငံခြား သို့မဟုတ် နိုင်ငံခြားကုမ္ပဏီသို့ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်အတွက်ငှားရမ်းရန် ကြိုတင်ခွင့်ပြုချက်တောင်းခံလာပါက အငှားချထားခြင်းခံရသူ အားခွင့်ပြုပေးရမည်။

(ဂ) အငှားချထားသူသည် အငှားချထားသောမြေနှင့်စပ်လျဉ်း၍ပေးဆောင်ရန်ရှိသော မြေခွန်အပါအဝင် အခွန်အခအရပ်ရပ်ကိုပေးဆောင်ရမည်။

(ဃ) အငှားချထားခြင်းခံရသူ မှ အဆိုပါမြေကွက်အတွင်း မလိုအပ်သောအပင်များကို အငှားချထားခြင်း ခံရသူ မှ စရိတ်ကျခံပြီးခုတ်ရန်အတွက် ခွင့်ပြုပေးရမည်။

(င) အငှားချထားစဉ်ကာလအတွင်း မည်သည့်အကြောင်းပြချက်များဖြင့် ငှားရမ်းခြင်းကို ဖြတ်တောက်ခြင်း မပြုရ၊ အငှားချထားခြင်းခံရသူအနေဖြင့် ငှားရမ်းခများကို ပေးဆောင်နေသည့်ငှားရမ်းကာလအတွင်း အငှားချထားသောမြေနှင့် အကျိုးဝင်သည့်အရာများကို ငြိမ်းချမ်းစွာ၊ အေးဆေးစွာနှင့် အနှောက်အယှက် ကင်းစွာတို့ဖြင့် အသုံးပြုဆောင်ရွက်ပိုင်ခွင့်ရှိစေရမည်ဖြစ်ပြီး၊ ငှားရမ်းသည့်ကာလအတွင်း အငှားချထားသူ ၏ သဘောဆန္ဒ-အရ သို့မဟုတ် တစ်ဦးဦး၏ဝင်ရောက်တောင်းဆိုမှုအရ သို့မဟုတ်အငှားချထားသူ၏ယုံကြည်အပ်နှံသူတို့မှ ပါဝင်ပတ်သက်မှုများဖြင့် ဝင်ရောက်နှောက်ယှက်ခြင်းမရှိစေရ။ အငှားချထားခြင်း ခံရသူမှလည်း(၃)နှစ်အတွင်း မငှားလိုပါက အငှားချထားသူ၏ နစ်နာဆုံးရှုံးမှုများအားပြေရှင်းပေးရမည်။

၇။ **မလွှဲမရှောင်နိုင်သည့်ဖြစ်ရပ်များ**

၇-၁ မလွန်ဆန်နိုင်သည့် သဘာဝဘေးအန္တရာယ်များဖြစ်သည့် ရေကြီးခြင်း၊ မီးလောင်ခြင်း၊ လေမုန်တိုင်းကျ ရောက်ခြင်း၊ စစ်မက်ဖြစ်ပွားခြင်း၊ မြေငလျင်တုန်လှုပ်ခြင်းနှင့် အလားတူထိန်းချုပ်၍မရနိုင်သည့် ဖြစ်ရပ်များ သို့မဟုတ် မည်သည့်ဖက်မျှ ကြိုးစားအားထုတ်ဆောင်ရွက်မှုဖြင့် တားဆီးမရနိုင်သောဖြစ်ရပ်များကြောင့် တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များကို ထမ်းဆောင်ရန်ပျက်ကွက်ပါက အဆိုပါမလွှဲမရှောင်နိုင်သည့်ဖြစ်ရပ်များ ပေါ်ပေါက်ကြောင်းကို ဖြစ်ပေါ်သည့်အချိန်မှ (၁၄)ရက်အတွင်း အခြားတစ်ဖက်သို့ စာဖြင့်အကြောင်း ကြားရမည်။ အခြားတစ်ဖက် ကလည်း မလွန်ဆန်နိုင်သည့်ဖြစ်ရပ် ပေါ်ပေါက်ကြောင်းလက်ခံပါက စာချုပ် ချုပ်ဆိုသူနှစ်ဦး နှစ်ဖက်စလုံးတွင်မည်သည့်တာဝန်မျှမရှိစေရ။ မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များပေါ်ပေါက် သည့်ကာလကို စာချုပ်သက်တမ်းကာလမှ ထုတ်နှုတ်ရန် သဘောတူကြပါသည်။

၈။ သဘောတူစာချုပ်စတင်အကျိုးသက်ရောက်သောနေ့

၈-၁ ဤသဘောတူစာချုပ်သည် အငှားချထားသူနှင့်အငှားချထားခြင်းခံရသူတို့ နှစ်ဦးနှစ်ဘက် မြေငှားသဘော တူစာချုပ်ကို လက်မှတ်ရေးထိုးသဘောတူညီသည့်နေ့မှ စတင်၍အကျိုးသက်ရောက်မှုရှိစေရမည်ဖြစ်သည်။

၉။ စာချုပ်ရပ်စဲခြင်း

၉-၁ ဤသဘောတူစာချုပ်ကို အောက်ပါအခြေအနေတစ်ရပ်ရပ် ပေါ်ပေါက်လာပါက ရပ်စဲခြင်း ပြုလုပ်နိုင်သည်။

(က) လုပ်ငန်းတွင် ကြီးမားစွာ ဆက်တိုက်အရှုံးပေါ်ပေါက်နေခြင်း၊

(ခ) မြေငှားသဘောတူစာချုပ်ဝင် တဖက်ဖက်မှ စာချုပ်ပါ တာဝန်များဆောင်ရွက်ရန် ပျက်ကွက်ခြင်း၊

(ဂ) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုလုပ်နိုင်သော မလွှဲမရှောင်နိုင်သည့်ဖြစ်ရပ်များ (၆)လ ထက်ပိုမိုဖြစ်ပေါ်လာခြင်း၊

(ဃ) သဘောတူစာချုပ်၏ မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်းမရှိခြင်း၊

၉-၂ သို့သော်ငြားခည်း အငှားချထားခြင်းခံသူသည် ၎င်း၏လုပ်ငန်းများ ဆက်လက်ဆောင်ရွက်နိုင်ရန်နှင့် ပြန်လည် တည်ထောင်မှုပြုလုပ်နိုင်ရန်အတွက် ဤသဘောတူစာချုပ်ပါ ၎င်း၏အခွင့်အရေးများကို ခွင်းချက်အဖြစ် သက် သာခွင့်ရရှိစေနိုင်သည်။ ဤသဘောတူစာချုပ်တွင်ပါရှိသော ပြဋ္ဌာန်းသတ်မှတ်ချက်များနှင့်အညီ နှစ်ဦး နှစ်ဖက် တို့သည် ဤသဘောတူစာချုပ်ကို ရပ်စဲလိုပါက ရပ်စဲလိုကြောင်း အကြောင်းကြားစာ ကို အခြားတစ်ဖက်ထံသို့ (၃)လ ကြိုတင်၍ ပေးပို့အသိပေးရမည်။

၉-၃ ဤကဲ့သို့ မြေငှားသဘောတူစာချုပ်ရပ်စဲရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ သဘောတူ အတည်ပြု ချက် ရရှိပြီးမှသာလျှင် စာချုပ်ရပ်စဲနိုင်ခွင့်ရှိသည်။

၁၀။ အနုညာတစီရင်ဆုံးဖြတ်ခြင်း

၁၀-၁ အကယ်၍ ဤမြေငှားသဘောတူစာချုပ်ပါ အချက်အလက်များနှင့်ပတ်သက်ပြီး၊ အကောင်အထည်ဖော် ဆောင်ရွက်ရာတွင်ဖြစ်စေ၊ အဓိပ္ပါယ်လွဲမှားမှုကြောင့်ဖြစ်စေ၊ အငြင်းပွားမှုများဖြစ်ပေါ်လာပါက သဘောတူ စချုပ်တွင် လက်မှတ်ရေးထိုးထားသည့် နှစ်ဦးနှစ်ဖက်စလုံးမှ ညှိနှိုင်းဆွေးနွေးခြင်းဖြင့် အငြင်းပွားမှုများကို ပြေလည်ငြိမ်းအေးစေနိုင်သည်။ နှစ်ဦးနှစ်ဖက်အကျေအလည်ညှိနှိုင်းဆွေးနွေး၍ မရရှိခဲ့ပါက မြန်မာနိုင်ငံ အတွင်း၌ နှစ်ဦးနှစ်ဖက်အတွက် ခုံသမာဓိလူကြီးတစ်ဦးစီ ရွေးချယ်ခန့်ထားပြီး ညှိနှိုင်းဆွေးနွေးနိုင်ခွင့် ရှိသည်။ နှစ်ဦးနှစ်ဖက်မှ ခန့်အပ်ထားသော ခုံသမာဓိလူကြီးများမှ အငြင်းပွားမှုများကို ပြေလည်အောင် ဖြေရှင်း ပေးနိုင်ခြင်းမရှိခဲ့ပါက အဆိုပါခုံသမာဓိလူကြီးများသဘောတူသော ခုံသမာဓိလူကြီး၏ အဆုံးအဖြတ်ကို နှစ်ဖက် စလုံးမှလက်ခံကြရမည်။ ၎င်းခုံသမာဓိလူကြီး၏ အဆုံးအဖြတ်သည် အပြီးသတ်ဖြစ်စေရမည့်အပြင် နှစ်ဖက်အဖွဲ့သည်များအပေါ်အတည်

ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းမှာ ၂၀၁၆ ခုနှစ်၊ မြန်မာနိုင်ငံအနုညာတ ဥပဒေနှင့် နောက်ပိုင်းပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ ခုံသမာဓိ အဖွဲ့၏ ဖြေရှင်းဆုံးဖြတ်ရန် နေရာမှာ ရန်ကုန်မြို့၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင်သာ ဖြစ်ရပါမည်။ ခုံသမာဓိရုံး၏ ကုန်ကျစရိတ်များကို အမှုရှုံးသည့်ဖက်မှ ကျခံပေးဆောင်ရမည်။

၁၁။ လွှမ်းမိုးသောဥပဒေ

၁၁-၁ -သဘောတူစာချုပ်ကိုပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ဥပဒေများနှင့်အညီအကောင်အထည်ဖော်ဆောင်ရွက်ရမည်။ ဤစာချုပ်ကို လွှမ်းမိုးသောဥပဒေသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏တည်ဆဲဥပဒေများဖြစ်သည်။ ဤစာချုပ်ပါနှစ်ဦး နှစ်ဖက်စလုံးသည် စီရင်ပိုင်ခွင့်ရှိသော သက်ဆိုင်ရာမြန်မာတရားရုံးနှင့် အယူခံမှုများကို ကြားနာနိုင်သော တရားရုံးအားလုံး၏ စီရင် ပိုင်ခွင့်ကိုလက်ခံကြပါသည်။

၁၂။ ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ

၁၂-၁ ဤသဘောတူစာချုပ်တွင်ပါဝင်သော လုပ်ငန်းဆောင်ရွက်ချက်များကို အကောင်အထည်ဖော် ဆောင်ရွက်မှုများအတွက် သက်ဆိုင်ရာအစိုးရဌာနအဖွဲ့အစည်းများ၏ ခွင့်ပြုသဘောတူညီချက်ရရှိပြီးမှသာလျှင် ဆောင်ရွက် နိုင်ခွင့်ရှိကြမည်ဖြစ်သည်။

၁၃။ စာချုပ်အားဖြင့်ပြန်လည်ပြင်ဆင်စေ့စပ်ညှိနှိုင်းခြင်း

၁၃-၁ ဤသဘောတူစာချုပ်၌ ကြိုတင်မမျှော်မှန်းနိုင်သော အခြေအနေတစ်ခုခုပေါ်ပေါက်လာသဖြင့် စာချုပ်ပါ အချက်အလက်များကို ဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်သောအခါတွင် နှစ်ဦးနှစ်ဖက်မှစေ့စပ်ညှိနှိုင်းပြီး စာချုပ်ပါ အချက်များကို လိုအပ်သလိုပြင်ဆင်ခွင့် ရှိစေရမည်ဖြစ်သည်။ ဤကဲ့သို့ပြင်ဆင်ရာတွင် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ သဘောတူညီအတည်ပြုချက် ရရှိပြီးမှသာလျှင် အတည်ဖြစ်မည် ဖြစ်သည်။

၁၅။ ဘာသာစကား

၁၅-၁ ဤမြေငှားသဘောတူစာချုပ်ကို ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေပြဌာန်းချက်များနှင့်အညီ မြန်မာ ဘာသာဖြင့် စာချုပ်သုံးစောင်ရေးသားပြီးလျှင် စာချုပ်နှစ်စုံကို နှစ်ဦးနှစ်ဖက်မှ တစ်စုံစီရယူထားပြီး၊ ကျန်သော စာချုပ် တစ်စုံကိုသက်ဆိုင်ရာအာဏာပိုင်အဖွဲ့အစည်းထံသို့ပေးပို့၍စစ်ဆေးခြင်းနှင့်အတည်ပြုချက်များရယူနိုင်ရန်ပေးပို့ရမည်။

၁၆။ အကြောင်းကြားစာ

၁၆-၁ ဤသဘောတူစာချုပ်နှင့်ပတ်သက်၍ အကြောင်းကြားစာနှင့် အခြားဆက်သွယ်မှုများအား အောက်ဖော်ပြပါ လိပ်စာများအတိုင်း မြန်မာဘာသာဖြင့်ရေးသားပြီးလျှင် စာတိုက်မှမှတ်ပုံတင်ချောစာဖြင့်ဖြစ်စေ သို့မဟုတ် တဲလက်စ်

ဖြင့်ဖြစ်စေ၊ ဖက်စ်ဖြင့်ဖြစ်စေ နှစ်ဦးနှစ်ဖက်ဆက်သွယ်ပေးပို့ရမည်။ ထိုသို့ဆက်သွယ်ပေးပို့ရာတွင် သဘောတူစာချုပ်ချုပ်ဆိုစဉ်က လိပ်စာအတိုင်းသော်လည်းကောင်း၊ တစ်ဖက်မှအကြောင်းကြားလာသည့် အခြား လိပ်စာဖြင့်သော်လည်းကောင်း ဆက်သွယ်ပေးပို့ရမည်။ လိပ်စာများမှာ-

(က) "အငှားချထားသူ" (၁)အမည် - ဒေါ်သုန္ဒာစိုး ( ၉/မရမ(နိုင်) ၁၀၂၄၉၁

(၂)လိပ်စာ - အမှတ် ( ၄၀/အေ)၊ ဖိုးစိန်လမ်း၊ နတ်မောက်ရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။

(၃)ဖုန်းအမှတ် -

(၄)ဖက်စ်နံပါတ် -

(၅)တဲလက်နံပါတ် -

(ခ) "အငှားချထားခြင်းခံရသူ" (၁)အမည် - အောင်ကမ္ဘာမော်တာဝန်ဆောင်မှုကုမ္ပဏီလီမိတက်

(၂)လိပ်စာ - အမှတ် ၅၄၊ (၁)လမ်း။ (၈)ရပ်ကွက်၊ - တောင်ဥက္ကလာပမြို့နယ်။ရန်ကုန်မြို့

(၃)ဖုန်းအမှတ် -

(၄)ဖက်စ်နံပါတ် -

(၅)တဲလက်နံပါတ် -

၁၆-၂ ယခုကဲ့သို့စာရွက်စာတမ်းများ ပေးပို့ဆက်သွယ်သည့်အခါတွင် ပေးပို့ခြင်းကိုလက်ခံရယူသည့်ဖက်မှ လက်ခံရရှိပြီးဖြစ်ကြောင်းအကြောင်းပြန်ကြားစာရရှိပြီးမှသာလျှင်ပေးပို့ခြင်းကိစ္စပြီးမြောက်ပြီးဖြစ်သည်ဟုအတည်ပြုနိုင်သည် အကယ်၍တစ်ဖက်ဖက်မှ လိပ်စာအပြောင်းအလဲရှိပါက စာဖြင့်ရေးသားပြီး အကြောင်းကြားစာကို ပေးပို့ရမည်။

၁၇။ အငှားချထားသောမြေပုံ

၁၇-၁ ဤမြေငှားသဘောတူစာချုပ်အရအငှားချထားမည့် ဦးပိုင်မြေကွက်အမှတ် ၅၇/၂၊ ဆားတလင်းကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်မြို့တွင်တည်ရှိ သောအငှားချထားသူပိုင် ( ၄.၇၀ ) ဧကကျယ်ဝန်းသောမြေနေရာပြပုံကို နောက်ဆက်တွဲ(က-၁)၌တွင် ပူးတွဲဖော်ပြ ထားပါသည်။

၁၈။ တွင်းထွက်ပစ္စည်းများနှင့်သယံဇာတပစ္စည်းများ

၁၈-၁ ဤမြေငှားသဘောတူစာချုပ်အရ ငှားရမ်းမှုပြုလုပ်ထားသော မြေနေရာတွင် မည်သည့်အချိန်တွင်မဆို ထွက်ပေါ်ရရှိလာသော ဓါတ်သတ္တုများ၊သဘာဝတွင်းထွက်သယံဇာတပစ္စည်းများ၊ ကျောက်မျက်ရတနာများ၊ ကြေးနီ၊ ရေနံနှင့်အခြားသောတူးဖော်ရရှိလာမည့် သဘာဝအရင်းမြစ်များအားလုံးသည် ပြည်ထောင်စုမြန်မာ နိုင်ငံတော်အစိုးရနှင့်သာ သက်ဆိုင်စေရမည်ဖြစ်ပြီး အငှားချထားသူအနေဖြင့် သက်ဆိုင်ရာအစိုးရဌာနသို့ အကြောင်းကြားတင်ပြပေးရမည်ဖြစ်သည်။

